# အသောက ကျောက်စာများ

ဓမ္မဝိဇယ



တရားဖြင့်အောင်ခြင်း

ဘာသာပြန်သူ
ဦးဖိုးလတ်

# အသောက ကျောက်စာများ။

ဘာသာပြန်သူ
ဦးဖိုးလတ်

---

ပညာနန္ဒ ပုံနှိပ်တိုက်။
အမှတ် ၁၅ အင်းယားမြိုင်လမ်း၊ တက္ကသိုလ်ရိပ်သာ၊ ရန်ကုန်မြို့။

ပ-န-က

# မာတိကာ

## မာတိကာ

# အချီး

အသောက အမိန့်တော် ပြန်တမ်း ကျောက်စာများကို၊ ကမ္ဘာလုံး ဆိုင်ရာ သီအိုဆိုဖီ(သဗ္ဗညုကဥာဏ)အသင်းကြီး၏ ဥက္ကဋ္ဌ မစ္စတာ စီ၊ ဇိနရာဇဒါသ[၁]၏အကြံပေးတိုက်တွန်းချက်အရ၊ မြန်မာဘာသာစကား ပြင်သက်သက်သို့ပြန်ဆိုကာ လူသာမန်တို့ အလွယ်တကူ၊ ဝယ်ယူဖတ်ရှု နိုင်ရန်စာအုပ်အဖြစ်ဖြင့်၊ ပုံနှိပ်ထုတ်ဝေလိုက်ပါသည်။

ကျောက်စာ များကို မြန် မာ ဘာ သာ သို့ ပြန်ဆိုရာ၌၊ မစ္စတာ ဂျီ၊ သြီနိဝါသမုရ်တိ[၂] နှင့် မစ္စတာ၊ အေ၊ အင်၊ ကြစ်သျှနာ၊ အဲယန်ဂါရ်[၃]တို့ စီရင်သော "အသောကအမိန့်တော် ပြန်တမ်းများ"[၄] တွင် ပါရှိသည့်၊ ပြာကြိုင် ဘာသာမူနှင့် အင်္ဂလိပ် ဘာသာ ပြန်ဆိုချက်များကို၊ မူတည် ကိုးစား၍ပြုပြင်ထားပါသည်။ ရင်းမူနှင့်ဘာသာပြန်ဆိုချက်များကိုလည်း၊ လိုအပ်သည့် နေရာတို့၌ အီ၊ ဟု, တ်ဇ်က်[၅] စီရင်သော "အသောက ကျောက်စာများ"[၆] အေ၊ စီ၊ ဝုလ်နာရ်[၇] စီ ရင်သော "အသောက ကျောက်စာ၊ စာသားနှင့်စကားများ"[၈] အာ၊ ရ်၊ မုကာရ်ဇီ[၉] စီရင်သော "အသောက၊"[၁၀] အသျှင်ကိတ္တိ စီရင်သော "ဇန္ဒိယကြေးမုံကျမ်းကြီး" တွင်ပါရှိသော "အသောကကျောက်စာတော်" နှင့် အသျှင်အာဒိစ္စဝံသ

---

၁။ Mr. C. Jinarjadasa.
၂။ Mr. G. Srinivasa Murti.
၃။ Mr. A. N. Krishna Aiyaugar.
၄။ Edicts of Asoka
၅။ E. Hultzsch.
၆။ Inscriptions of Asoka.
၇။ A. C. Woolner.
၈။ Asoka Text and Glossary.
၉။ R. Mookerji.
၁၀။ Asoka.

# အချီး

မြန်မာဘာသာပြန်ဆိုသော "အသောကမင်းတရားကြီး၏ ကျောက်စာတော်" စသော စာအုပ်များ၏ မူများ၊ ဘာသာပြန်ဆို ချက်များနှင့်လည်း၊ တိုက်ဆိုင် ညှိနှိုင်းပါသေးသည်။ သို့ရာတွင် ဤသို့ တိုက်ဆိုင် ညှိနှိုင်းကာ ဘာသာ ပြန်ရာ၌ "အသောက အမိန့်တော် ပြန်တမ်းများ၊ အသောက ကျောက်စာများ၊ အသောက ကျောက်စာ စာသားနှင့် စကားများ" တွင် ပါရှိသော ပြာကြိုဋ် မူရင်းတို့ကိုသာ ပမာနထား၍၊ ထိုမူရင်းပါ စကားတို့၏အနက် အဘော်တို့ကိုလည်း၊ မသွေ မယိမ်း မတိမ်း မစောင်း စိမ့်သောငှါ၊ ပြာကြိုဋ် အဘိဓာန် သံသကြိုဋ် အဘိဓါန်၊ ပါဠိအဘိဓါန်၊ ဟိန္ဒီအဘိဓါန်တို့နှင့်၊ အပြန်ပြန် စိစစ် ဝေဘန်ပါသေးသည်။ ထို့ကြောင့်၍ "အသောက အမိန့်တော် ပြန် တမ်း ကျောက်စာများ" တွင်၊ မြန်မာဘာသာ ပြန်ဆိုချက်များမှာ၊ ကျောက်စာတို့၏မူရင်းအတိုင်း၊ သဒ္ဒါနည်း အနက်နည်းတို့၌၊ မပို မယို မကွန့် မပိုက်၊ အံ့ကိုက် တိကျစွာ ပြန်ဆို ခြင်းများ သာ ဖြစ်ကြောင်း ဝန်ခံပါသည်။

ဘာသာပြန်ဆိုရာဝယ်၊ အခက်အခဲ ရှိသည်တို့၌ ကူညီဖြေရှင်းကာ၊ အချို့ လိုအပ် သော စာ အုပ် များ ကို ပေး အပ် သူ၊ ဒုတိယ စိုက်ပျိုး ညွှန်ကြားရေးဝန်၊ ဦးသာမြတ်အားရင်း၊ အရေးကြီးသော စာအုပ်များကို ရှာဖွေပေးအပ်သူ၊ ကျောက်စာဝန်မင်း ဦးလူဖေဝင်း အားရင်း၊ ဘာသာ ပြန် ဆို ချက် များ ကို ဖတ် ရှု၍ ၊ကောင်း သည် ထက် ကောင်း အောင် အကြံဉာဏ်ပေးသူ တောင်တွင်းကြီးမြို့၊ သစ်ကုန်သည်၊ ဦးစံမြအားရင်း၊ ကျေးဇူးအထူးတင်ပါသည်။

နိုင်ငံရေး၊ စီးပွါးရေး၊ အယူဝါဒရေး၊ လူမျိုးရေး စသည် တို့၌၊ တကိုကောင်း၊ တဂိုဏ်း ကောင်း၊ တမျိုး သား ကောင်း လောက် ကို သာကြည့်၍၊ အာဏာတန်ခိုး၊ လက်နက်အားကိုးကာ အဓမ္မ ဝါဒများ လွှမ်းမိုး နေသေးသော၊ ဤ ကပ်ပြောင်း ကပ် လဲ၊ ကပ် ဆိုး ကပ် ပြု ခေတ်ကြီး၌၊ တလောကလုံး၊ ဂိုဏ်းပေါင်းစုံ၊ အမျိုးသား ပေါင်းတို့၏ ချမ်းသာရေး၊ ကောင်းစားရေး၊ တိုးတက်ကြီးပွါးရေးတို့ကို ရှေ့ရှုသော၊

# အချီး

သီရိဓမ္မာသောက မင်းကြီး၏ ဓမ္မာနုဿတိ၊ တရားကို အောက်မေ့ဆင်ခြင်ခြင်း၊ ဓမ္မသုဿုတ၊ တရားကို ကြားနာခြင်း ဓမ္မာနုသာသန၊ တရား၌ သွန်သင်ဆုံးမခြင်း၊ ဓမ္မစရဏ၊ သီလတရားကို ဆောက်တည်ကျင့်သုံးခြင်း၊ ဓမ္မပဋိပတ္တိ၊ ဘာဝနာတရားကိုပွါးများကျင့်သုံး ဆောက်တည်ခြင်း၊ ဓမ္မနိဿိတ၊ တရားတော်၌တည်မှီခြင်း၊ ဓမ္မဝမိ၊ တရားတော်၌ တိုးတက်ကြီးပွါးခြင်း၊ ဓမ္မဒါန၊ တရားအလှူပေးခြင်း၊ ဓမ္မင်္ဂလာ၊ တရားမင်္ဂလာပြုခြင်း ဓမ္မဃောသ၊ တရားစည်ကြီး မြည်ဟီးစေခြင်း၊ ဓမ္မဝိဇယ၊ တရားဖြင့် အောင်ခြင်းစသော၊ ဓမ္မဝါဒနှင့်တကွ၊ အဟိံသဝါဒ၊ ကမ္ဘာ့ငြိမ်းချမ်းရေးဝါဒ၊ ကမ္ဘာ့စည်းလုံးညီညွတ်ရေးဝါဒတို့ကို၊ မြန်မာနိုင်ငံနှင့်တကွ၊ ကမ္ဘာက လိုက်နာ ဆောင်ရွက်မည် ဆိုလျှင်၊ မကြာမီ မြန်မာတနိုင်ငံလုံးနှင့် တကမ္ဘာလုံး၌၊ ကုလသမဂ္ဂ အဖွဲ့ကြီး၏ လုံးပန်းလျက်ရှိသော ငြိမ်းချမ်းခြင်းကိုရ၍၊ လောကနိဗ္ဗာန်စခန်းသို့၊ ဖြောင့်တန်း စွာချီတက်နိုင်မည်သာမက၊ လောကုတ္တရာ နိဗ္ဗာန် စခန်းသို့ပင်၊ ရွယ်မှန်းနိုင်ကြမည်မှာမလွဲတည်း။ ဤသို့လိုက်နာ ဆောင်ရွက်နိုင်ကြစေခြင်းငှါ၊ သီရိဓမ္မာသောက မင်းကြီး၏ ဓမ္မဝါဒနှင့် အခြား မြင့်မြတ်သော ဝါဒများကို၊ အနှံ့အပြားဖြန့်ဖြူးရန်သည်ကား၊ ဤအသောက ကျောက်စာများကို စီရင် ထုတ်ဝေခြင်း၏ ရည်ရွယ်ရင်းပင် ဖြစ်ပါသည်။ လိုက်နာဆောင်ရွက်နိုင်ကြပါစေကုန်သတည်း။

**ဖိုးလတ်**

အထွေထွေအတွင်းရေးမှူး။

သဗ္ဗညုတဉာဏအသင်း မြန်မာပြည်။

ရန်ကုန်မြို့။

၁၉၅၀၊ အောက်တိုဘာလ ၈-ရက်။

၁၃၁၂ ခု၊ တော်သလင်းလဆုတ် ၁၂-ရက်။

# နိဒါန်း။

## အသောကနန်းစံနှစ် နှင့် နိုင်ငံတော်

အသောက၊ ဓမ္မာ သောက၊ သီရိဓမ္မာ သောကဟု ရာဇဝင်၊ မဟာဝင် တို့တွင် ထင်ရှား၍၊ ကိုယ်တိုင် ရေးထိုး ခဲ့သော အမိန့်တော် ကျောက်စာတို့တွင်ကား၊ ဒေဝါနံပိယ၊ ဒေဝါနံပိယ-ပိယဒသီ၊ ပိယဒသီဟု၊ မိမိ ကိုယ် ကို ခေါ်တွင် စေခဲ့သော မင်းတရားကြီးသည်၊ အနောက်နိုင်ငံ သုတေသီ ပုဂ္ဂိုလ်တို့၏ ယူဆချက်အရ၊ သာသနာ နှစ် ၂၀၀ မှ ၃၁၇၊ ခရစ်တော်မပေါ်မီနှစ် ၂၆၄မှ ၂၂၇ အတွင်း၌သော်၎င်း၊ ဒီပဝံသ၊ မဟာဝံသ မှတ်တမ်းတို့ကိုမှီး၍၊ သီဟိုဠ်ကျွန်းနှင့် မြန်မာနိုင်ငံ ပညာရှိများ၏ယူဆချက်အရ၊ သာသနာနှစ် ၂၁၈မှ၂၅၅၊ ခရစ်တော် မပေါ်မီနှစ် ၃၄၂ မှ ၂၆၄ အတွင်း၌ သော်၎င်း၊ ရှေးအခေါ် ဇမ္ဗူဒီပ၊ ယခုအခေါ် အိန္ဒိယတိုင်းတွင်၊ ဖုန်းတန်ခိုး အာနုဘော်နှင့် ပြည့်စုံစွာ၊ အုပ်ချုပ် စိုးစံခဲ့သော ဧကရစ် ဘုရင်ကြီး ဖြစ်လေသည်။ ထိုမင်းတရား ကြီး၏နိုင်ငံတော်သည်၊ ဒက္ခိဏ ကုန်းပြင်မြင့်၏ တောင်ဘက်အစွန်ဆုံး ကျသော စေဠ၊ သတိယ၊ ကေရာလ၊ ပဏ္ဍယတိုင်းငယ်တို့ကို ချန်လှပ်၍၊ ကသ္မီရနယ် ပါဝင် သော၊ အိန္ဒိယ တိုင်း တ တိုင်း လုံး အပြင်၊ ယခု အဖဃာနိစတန်' ဗလူချီစတန်နယ်တို့ပါဝင်သည်တိုင်အောင် ကျယ်ဝန်း ပြန့်ပြောလေသည်။

## အသောကကျောက်စာအမျိုးအမည်များ

အသောက မင်းတရားကြီးသည် မိမိ၏ တိုင်းသူပြည်သား တို့အား တရားဓမ္မ၌ သွန်သင်ဆုန်းမရန်၊ မိမိ၏မှူးမတ်ကြီးငယ်တို့အား၊ လိုက်နာ ဆောင်ရွက်ရမည့် ဝတ္တရားတို့၌၊ မိန့်ကြား ညွှန်ပြရန်၊ သာသနာရေး၊ နိုင်ငံရေးတို့၌၊ မိမိ၏ စီမံဆောင်ရွက်ချက်များနှင့်၊ ပြုခဲ့သော ကောင်းမှု ကုသိုလ်တို့ကို မှတ်တမ်းတင်ရန်၊ နိုင်ငံတော်အတွင်း အနှံ့ အပြားပင် ကျောက်စာ များကို ရေး ထိုး ခဲ့ လေသည်။ ဤသို့ရေးထိုး ခဲ့သော ကျောက်စာများအား ကျောက်မျက်နှာပြင်၏တည်ရာကိုစွဲ၍

(၁) ကျောက်ဆောင်စာများ။

(၂) ကျောက်တိုင်စာများ။

(၃) ကျောက်ဂူစာများဟု၊ သုံးမျိုးခွဲခြား၍ ဖော်ပြလေ့ရှိလေသည်။

ကျောက်ဆောင်၊ ကျောက်ဆိုင်၊ ကျောက်တုံးကြီး၊ ကျောက်တောင် နံရံစသော၊ သဘာဝ ကျောက်မျက်နှာပြင်တို့ အပေါ်၌ အနည်းငယ် ပြုပြင်၍ ရေးထိုးခဲ့သောစာများကို ကျောက်ဆောင်စာဟုခေါ်လေသည်။ ကျောက်တိုင်စာတို့ သည်ကား၊ အချောပြုပြင် စီမံစိုက်ထူ ထားသော ကျောက်တိုင် မျက်နှာပြင်တို့ အပေါ်၌ ရေး ထိုး ထားသော စာများ ဖြစ်လေသည်။ ကျောက်ဂူနံရံတို့၌ ရေးထိုးထားသော စာတို့ကိုသော် ကျောက်ဂူစာဟု ခေါ်ဆိုလေသည်။

အသောက မင်းတရားကြီး ရေးထိုးခဲ့သော ကျောက်ဆောင်စာနှင့် ကျောက်တိုင်စာတို့သည်ကား၊ လွန်စွာအရေးကြီးလေသည်။ ထိုနှစ်မျိုး တွင်လည်း၊ အထူးအရေးကြီးသဖြင့် အရပ်များစွာ တို့၌ အထပ်ထပ် အခါခါ အပြည့်အစုံ ရေး ထိုး ခဲ့သော ပဓါန ကျောက်ဆောင် စာနှင့် ကျောက်တိုင်စာ၊ ထိုမျှအရေးမကြီးသဖြင့် အချို့အရပ် အချို့နေရာတို့၌ သာ ၎င်း၊ တ နေ ရာ တည်း ၌ သာ ၎င်း၊ အတို အ ကျဉ်းမျှ ရေး ထိုး ခဲ့သော ကျောက်ဆောင်စာငယ်၊ ကျောက်တိုင်စာငယ်ဟူ၍၊ နှစ်စားစီ ခွဲခြား ထားလေသည်။ ကလိင်္ဂတိုင်းအတွင်း၊ နှစ်နေရာတည်း ၌သာ ရေးထိုး ခဲ့သော်လည်း၊ စာသားနှင့် အကြောင်း အရာ အတော် ရှည်လျား၍အရေးကြီးသော၊ ကလိင်္ဂကျောက်ဆောင်စာနှစ်ခုကိုသော်၊ ကျောက်ဆောင်စာငယ်စာရင်းတွင်မသွင်းပဲ၊ ပဓါနကျောက်ဆောင်စာ များ စာရင်း၌ ထည့်သွင်းဖော်ပြကြလေသည်။

## (က) ပဓါနကျောက်ဆောင်စာများ။

ပဓါနကျောက်ဆောင်စာများမှာ၊ တစ်ဆယ့် ခြောက်ခု ရှိလေသည်။ ၎င်းတို့သည်ကား ပဌမကျောက်ဆောင်စာမှ စတုဒ္ဒသမကျောက်ဆောင်

စာအထိ အစီအစဉ်အတိုင်း ရေးထိုးထားသော တစ်ဆဲ့လေး ခု သော ကျောက် ဆောင် စာ တို့ နှင့်၊ ပဌမနှင့် ဒုတိယဟု ဖေါ်ပြလေ့ရှိသော ကလိင်ကျောက်ဆောင်စာ နှစ်ခုတို့ ဖြစ်လေသည်။ ထိုတစ်ဆဲ့ ခြောက်ခု သော ကျောက်ဆောင်စာတို့ကို၊ ခုနစ်ခုသောနေရာတို့ဝယ် အောက်၌ ဖေါ်ပြထားသည့်အတိုင်းရေးထိုးခဲ့လေသည်။

(၁) ဂိ ရ် နာ ရ် ကျောက် ဆောင်။ အိန္ဒိယ နိုင်ငံ အ နောက် ပိုင်း၊ ကာ သိ အာ ဝါ ကျွန်းဆွယ်၊ ဇု နာဂ ရ် မြို့၏ အရှေ့ဘက်တမိုင်ခန့်ကွာ၊ ဂိရ်နာရ်တောင် လျှိုဝတွင် တည်ရှိသည်။ ဤ ကျောက်ဆောင်၌ ပဌမမှ စတုဒ္ဒသမတိုင်၊ တစ်ဆဲ့လေးခုသော ကျောက်ဆောင်စာတို့ကို ရေးထိုး လျက်ရှိသည်။

(၂) ကာ လ် သီ ကျောက် ဆောင်။ အိန္ဒိယ နိုင်ငံ မြောက်ပိုင်း ဒေရာဒွန်းဒိစတြိတ်၊ ကာလ်သီမြို့၏ မြောက်ဖက် တမိုင် ခွဲ ခန့် ကွာ၌ တည်ရှိသည်။ ဤကျောက်ဆောင်၌ ပ ဌ မ မှ စတုဒ္ဒသမ တိုင်၊ တစ်ဆဲ့ လေးခုသော ကျောက်ဆောင်စာတို့ကို ရေးထိုးလျက်ရှိသည်။

(၃) သျှာဘာဇ် ဂရ်ဟီ ကျောက်ဆောင်။ အိန္ဒိယနိုင်ငံ အနောက် မြောက်ပိုင်း၊ ပေသျှာဝါဒိစတြိတ်၊ သျှာဘာဇ်ဂရ်ဟီရွာ၏ အရှေ့ဖက် တမိုင်ခန့်ကွာရှိ တောင်စောင်း၌ တည် ရှိ သည်။ ဤကျောက်ဆောင်၌ ပဌမမှ စတုဒ္ဒသမ တိုင် တစ်ဆဲ့လေးခုသော ကျောက်ဆောင်စာတို့ကို ရေးထိုးလျက်ရှိသည်။

(၄) မာန်သေရာကျောက်ဆောင်။ အိန္ဒိယနိုင်ငံ အနောက်မြောက် ပိုင်း၊ ဟဇာရဒိစတြိတ်၊ မာန်သေရာရွာ၏မြောက်ဘက်၌ တည်ရှိသည်။ ဤကျောက်ဆောင်၌ ပဌမမှ စတုဒ္ဒသမ တိုင် တစ် ဆဲ့ လေး ခု သော ကျောက်ဆောင်စာတို့ကို ရေးထိုးလျက်ရှိသည်။

(၅) ဓေါလိကျောက်ဆောင်။ အိန္ဒိယနိုင်ငံ အရှေ့ပိုင်း၊ ဩရိဿ နယ်။ ပုရီဒိစတြိတ်၊ ဓေါလိရွာအနီး၌တည်ရှိသည်။ ဤကျောက်ဆောင်၌ ပဌမမှ ဒေသမ တိုင် တစ်ဆဲ့တစ်ခုသော ကျောက်ဆောင်စာများ၊ စတုဒ္ဒသမ ကျောက်ဆောင်စာနှင့်၊ ကလိင် ကျောက်ဆောင်စာ နှစ်ခု၊ ပေါင်းတစ်ဆဲ့လေးခုရေးထိုးလျက်ရှိသည်။

(၆) ဇောဂဥကျောက်ဆောင်။ အိန္ဒိယနိုင်ငံအရှေ့ပိုင်း၊ သြရိသနယ်၊ ဂန်ဇာမ်ဒိစတြိတ်၊ ဇောဂဥ ခံတပ် တွင်း၌ တည် ရှိသည်။ ဤကျောက်ဆောင်၌လည်း၊ ဓေါလိ ကျောက်ဆောင်၌ ကဲ့သို့ပင်၊ ပဌမမှ ဧကာဒသမ တိုင် တစ် ဆဲ့ တစ် ခု သော ကျောက် ဆောင် စာ များ၊ စတုဒ္ဒသမ ကျောက်ဆောင်စာနှင့်၊ ကလိင်္ဂ ကျောက် ဆောင် စာနှစ်ခု၊ ပေါင်းတစ်ဆဲ့လေးခုရေးထိုးလျက်ရှိသည်။

(၇) သောပါရ ကျောက်ပိုင်းစ။ အိန္ဒိယနိုင်ငံ အနောက်ပိုင်း။ ဘုံဘိုင်နယ်၊ ထာနဒိစတြိတ်၊ ခေတ်အခေါ် သောပါရ၊ ရှေးအခေါ် သုပ္ပါရကမြို့၏အရှေ့ဖက်၊ ဘာဇတလာ ရေကန်အနီး၌တွေ့ရှိသည်။ ထိုကျောက်ပိုင်းစ၌ အဋ္ဌမ ကျောက်ဆောင် စာ၏ တစိတ် တဒေသမျှသောကျောက်စာကိုသာတွေ့ရသော်လည်း၊ ရှေး၌သုပ္ပါရကမြို့အနီးတွင် ကျောက်ဆောင်စာ တစုံလုံးကိုပင် ရေးထိုး ထားသည်ဟု ယုံကြည်ဖွယ် ရှိလေသည်။

(ခ) ကျောက်ဆောင်စာငယ်များ။

ကျောက်ဆောင်စာငယ်များအား၊ ဗြဟ္မဂိရိ ကျောက်ဆောင်စာငယ်ပဌမပိုင်းနှင့်ဒုတိယပိုင်းကိုတခုစီခွဲကာ၊ ငါးခုဟူ၍သာ ဤစာအုပ်၌ဖေါ်ပြလျက်ရှိသော်လည်း၊စင်စစ်ရှစ်ခုရှိ၍၊ထိုရှစ်ခုကိုငါးနေရာတို့၌ ရေးထိုးခဲ့လေသည်။ သို့ရာတွင် စာသားနှင့် အကြောင်းအရာများ ထပ်တူမျှ ကျသည် တို့ကို ပေါင်းလိုက် သော်၊ ပြောပလောက်အောင်မှုကွဲသော ကျောက်ဆောင်စာငယ်များသည်၊ဤစာအုပ်၌ ဖေါ်ပြထားသည့် အတိုင်း ငါးခုမျှသာ ရှိလေသည်။ ထိုကျောက်ဆောင်စာငယ်တို့၏ အမည်နှင့် တည်ရာတို့မှာ အောက်ပါအတိုင်းဖြစ်လေသည်။

(၁) ဗြဟ္မဂိရိ ကျောက်ဆောင်စာငယ်ပဌမပိုင်းနှင့် ဒုတိယပိုင်း။ အိန္ဒိယနိုင်ငံ တောင်ပိုင်း မိုက်စိုးနယ်၊ သိဒ္ဒါပုရ မြို့အနီး၊ ဗြဟ္မဂိရိတောင်နှင့် အနီးရှိ တောင်ကုန်းသုံးနေရာတို့၌၊ ကျောက်ဆောင်များပေါ်တွင် ရေးထိုးထားသည်၊သုံးနေရာတို့၌ ရေးထိုးထားသဖြင့်

# နိဒါန်း

ကျောက်ဆောင် စာငယ်သုံးခုဟာ ရေတွက်လေ့ ရှိသော်လည်း၊ စာသားများမှာ ထပ်တူပင်ဖြစ်၍ နှစ်ပိုင်းခွဲကာ၊ နှစ်ခု အနေဖြင့် ဤစာအုပ်၌ ဖေါ်ပြထားလေသည်။

(၂) ရူပ်နာထ်ကျောက်ဆောင်စာငယ်။ အိန္ဒိယနိုင်ငံ အလယ်ပိုင်းနယ်၊ ဇဗလ်ပုရ်ဒိစတြိတ်ဗဟုရိဗန်မြို့အနီး၊ ကဲမုရ်တောင်တန်း၊ ရူပ်နာ့ထ်ခေါ်အရပ်ရှိ ကျောက်ဆောင်တခု၌ ရေးထိုးထားသည်။

(၃) ဘာဗြာ၊ဝါ၊ဲရတ်ကျောက်ဆောင်စာငယ်။ အိန္ဒိယနိုင်ငံ အလယ်ပိုင်း။ ဇေပုရ်နယ်၊ ဘာဗြာ၊ဝါ၊ ဘာဗြူမြို့မှ၊ တစ်ဆဲ့နှစ်မိုင်ခန့်ကွာ၊ သို့ရာတွင် ဲရတ်မြို့မှသော် တစ်မိုင်မျှသာကွာ၊ အရှေ့မြောက်ဖက်ရှိ တောင်ကုန်း တကုန်းနှင့် အနောက် တောင်ဖက်ရှိ တောင်ကုန်းတကုန်းကျောက်ဆောင်များပေါ်၌ရေးထိုးထားသည်၊ ထိုကျောက်စာ နှစ်ခုအနက်၊ ဲရတ်မြို့၏ အရှေ့မြောက်ဖက်၊ မူလတည်ရာ၌ပင်ရှိသော ကျောက်စာ၏မူမှာ၊ ဗြဟ္မဂိရိကျောက်ဆောင်စာငယ်ပဌမပိုင်းနှင့်ရူပ်နာထ်ကျောက်ဆောင်စာငယ်များတွင်ပါပြီးဖြစ်၍၊သီးခြားမဖေါ် ပြတော့ပဲ၊ မြို့၏အနောက် တောင်ဖက်၌ မူလတည်၍ ယခုကာလကတ္တား မြို့သို့ရွှေ့ယူ သိမ်း ဆည်း ထား သော ကျောက်စာမူကိုသာဤစာအုပ်တွင်ဖေါ်ပြထားလေသည်။

(၄) မသ်ကိ ကျောက်ဆောင်စာငယ်။ အိန္ဒိယ နိုင်ငံတောင်ပိုင်း၊ ဟိုက်ဒြဗဒ်နယ်၊ ရဲချူရ်ဒိစတြိတ်၊ ယခုအခေါ် မသ်ကိ၊ ရှေးအခေါ် မောသင်ဂီ၊ ဝါ၊ မုသျှင်ဂိရွာအနီး၊ ကျောက်ဆောင်ကြီး တခု၌ ရေးထိုးထားသည်။

(၅) သဟသရာမ် ကျောက်ဆောင် စာငယ်။ အိန္ဒိယ နိုင်ငံ အရှေ့ပိုင်း၊ တောင်ဗိဟာနယ်၊ ရှာဟာဗဒ်ဒိစတြိတ် သဟသရာမ်မြို့အနီး၊ ကဲမုရ်တောင်တန်း၏အစွန်၊ ကျောက်လှိုဏ်အတွင်း၌ ရေးထိုးထားသည်။ ဤကျောက်ဆောင်စာငယ်၏ မူသည်လည်း၊ အခြားကျောက်ဆောင်စာငယ်တို့အနက်၊ အထူးသဖြင့် ဗြဟ္မဂိရိ ကျောက်ဆောင်စာငယ် ပဌမပိုင်းနှင့် ရူပ်နာထ် ကျောက်ဆောင်စာငယ်တို့၌ ပါပြီးဖြစ်၍၊ ဤစာအုပ်၌ သီးခြားမဖေါ် ပြတော့ချေ။

## (ဂ) ပဓာနကျောက်တိုင်စာများ။

ပဓာနကျောက်တိုင်စာများသည်လည်း၊ပဓာနကျောက်ဆောင်စာများကဲ့သို့၊ အသောကမင်းတရား၏ အရေးကြီးသော အမိန့်တော်ပြန်တမ်းများ၏ တည်ရာဖြစ်လေသည်။ ကျောက်တိုင် ပေါင်းမှာခြောက်ခုရှိ၍ခြောက်ခုစလုံး၏အပေါ်၌၊ဤစာအုပ်တွင်ပဌမမှဆဋ္ဌမအထိ ဖေါ်ပြလျက်ရှိသော ကျောက်တိုင် စာပေါင်း ခြောက်ခုစီရေးထိုးလျက်ရှိပြီးလျှင်၊ တခု၏ အပေါ်၌သော်၊ အခြားကျောက်တိုင်တို့အပေါ်၌ ရေးထိုးလျက်မရှိ၊ ဤစာအုပ်တွင် သတ္တမကျောက်တိုင်စာဟုဖေါ်ပြလျက်ရှိသော၊ အလွန်အရေးကြီးသည့်အမိန့်တော်ပြန်တမ်းတခုကိုလည်းအပိုရေးထိုးလျက်ရှိလေသည်။ထိုကျောက်တိုင်သည်ကား အောက်ပါ ကျောက်တိုင်စာရင်းတွင် ရှေးဦးစွာ ဖေါ်ပြလျက်ရှိသောဒေလီ-တောပြာကျောက်တိုင် ဖြစ်လေသည်။

(၁) ဒေလီ-တောပြာကျောက်တိုင်။မူလ၌ဒေလီမြို့မြောက်ဖက်၊ အမ္ဗလ ဒိစတြိတ်၊ တောပြာရွာတွင်တည်၍၊ မဂိုဘုရင် ဖီရောဇ်ရှာ (၁၃၅၁–၁၃၈၈)လက်ထက်၌၊ဒေလီမြို့တော်သို့ ရွှေ့ယူပြီးလျှင်၊ မိမိ၏နန်းတော်ထိပ်၌စိုက်ထူ၍ထားခဲ့လေသည်။

(၂) ဒေလီမီရဌ်ကျောက်တိုင်။မူလ၌ဒေလီမြို့အရှေ့မြောက်ဖက် မီရဌ်(မီရွတ်)ဒိစတြိတ်၊ မီရဌ်(မီရွတ်)မြို့အနီး၌တည်ရှိ၍၊ မဂိုဘုရင် ဖီရောဇ်ရှာလက်ထက်၌ပင်၊ ဒေလီ မြို့ တော် သို့ ရွှေ့ ယူ ပြီး လျှင် တောကစားနန်းတော်တွင် စိုက်ထူထားလေသည်။

(၃) လောရိယ အရရာဇ်ကျောက်တိုင်။ မြောက်ဗိဟာနယ်၊ ဆမ္ပါရန်ဒိစတြိတ်၊ လောရိယရွာအရရာဇ်ခေါ်ဟိန္ဒူဘုရားကျောင်း အနီး၌ တည်ရှိသည်။

(၄) လောရိယနန်ဒန်ဂရ်ကျောက်တိုင်။ မြောက်ဗိဟာနယ်၊ ဆမ္ပါရန်ဒိစတြိတ်၊လောရိယရွာ၊နန်ဒန်ဂရ်ခံတပ်အနီး၌တည်ရှိသည်။ ဤလောရိယရွာနှင့်အထက်ပါလောရိယရွာတို့မှာမတူချေ၊သို့ရာတွင် တရွာနှင့်တရွာများစွာလည်း မဝေးကွာလှချေ။

(၅) ရာမပူရ် ဗကျောက်တိုင်။ မြောက်ဗိဟာနယ်၊ ဆမ့္ပါရန် ဒိစတြိတ်၊ ရာမပူရ်ဗရွာ၌တည်ရှိသည်။

(၆) အလ္လဟာဗဒ် ကောသမ် ကျောက်တိုင်။ အလ္လဟာဗဒ် မြို့၏ အနောက်ဖက်၊ ခေတ်အခေါ်ကောသမ်၊ ရှေးအခေါ်ကောသမ္ဗီ မြို့၌မူလတည်ရှိနေရာမှ အလ္လဟာဗဒ်ခံတပ်တွင်းသို့ ရွှေ့ပြောင်းစိုက်ထူထားသည်။ ဤသို့ရွှေ့ပြောင်း စိုက်ထူသူမှာ၊ ဖီရောဇ်ရှာ ဘုရင်သော်၎င်း၊ အက်ဗရ်ဘုရင် (၁၅၆၀-၁၆၅၀) သော်၎င်း၊ ဖြစ်လိမ့်မည်ဟု ပညာရှိများ ယူဆကြ၏။

## (ဃ) ကျောက်တိုင်စာငယ်များ

ကျောက်တိုင်စာငယ်များမှာ ခြောက်ခုရှိသည်အနက်၊ မိဖုရားကျောက်တိုင်စာငယ်နှင့် ကောသမ္ဗီကျောက်တိုင်စာငယ်တို့သည် အထက်၌ ဖေါ်ပြခဲ့သော အလ္လဟာဗဒ် ကောသမ် ကျောက်တိုင်ကြီး၌ပင်ရေးထိုးလျက်ရှိသဖြင့်သီးခြားကျောက်တိုင်ငယ်လေးခုသာ ရှိလေသည်။

(၁) သာရ်နာထ်ကျောက်တိုင်ငယ်။ အိန္ဒိယနိုင်ငံမြောက်ပိုင်း၊ ဗာရာဏသီမြို့ မြောက်ဖက် သုံးမိုင်ခွဲမျှကွာ၊ မိဂဒါဝုန်တော၊ ဣသိပတန၊ ယခုအခေါ်၊ သာရ်နာထ်အရပ်၌တည်ရှိသည်။

(၂) သာဉ္စိ၊ ဝါ၊ သာမ်ချီကျောက်တိုင်ငယ်။ အိန္ဒိယနိုင်ငံ အလယ်ပိုင်းဘိုပါလ်နယ်၊ သန်ချီ မီးရထားရုံ အနီး တောထဲ၌ တည်ရှိသည်။ ရှေး၌သာဉ္စိထူပါရုံစေတီကြီး၏တောင်ဖက်မုခ်အနီး၌ စိုက်ထူထားသည်ဟု ယုံကြည်ရန်ရှိသည်။

(၃) လုမ္ဗိနီ၊ ဝါ၊ ရုမ္မိန္ဒေအီကျောက်တိုင်ငယ်။ အိန္ဒိယနိုင်ငံ၏ မြောက်ဖက်၊ နီပေါနယ်၊ ဘဂဝံပုရ်မြို့၏မြောက်ဖက်၊ ရှေးအခေါ် လုမ္ဗိနီ၊ ဝါ၊ လုမ္ဗိနီ၊ ယခုအခေါ် ရုမ္မိန္ဒေအီအရပ်၌တည်ရှိသည်။

(၄) နိဂလိဝါ ကျောက်တိုင်ငယ်။ အိန္ဒိယနိုင်ငံ၏ မြောက်၊ နီပေါနယ်၊ ရုမ္မိန္ဒေအီ၏ မြောက်ဖက်၊ တစ်ဆဲ့သုံးမိုင် ခန့်ကွာ နိဂလိဝါရွာအနီး၌ တည်ရှိသည်။

နိဒါန်း

## (င) ကျောက်ဂူစာများ။

အသောက မင်းတရားကြီး ရေးထိုးခဲ့သော ကျောက်ဂူစာတို့သည်ကား သုံးခုသာရှိ၍၊ တိုတောင်းပြီးလျှင်၊ အာဇီဝိက ရဟန်းတို့အားဂူများကိုလှူသောအကြောင်းတို့သာပါရှိသဖြင့်၊အရေးမကြီးလှချေ။ဤကျောက်ဂူစာနှင့်ပူးတွဲ၍၊မင်းတရားကြီး၏ထီးမွေနန်းမွေခံမြေးတော်ဒသရဋ္ဌဘုရင် ရေးထိုးခဲ့သော၊ အလားတူ ကျောက်ဂူစာ သုံးခုကိုလည်း ထည့်သွင်း ဖေါ်ပြလိုက်ပါသည်။ အားလုံး သော ကျောက်ဂူတို့သည်၊တောင်ဗိဟာနယ်၊ဂယာမြို့၏မြောက်ဖက်၊တဆယ့်ငါးမိုင်ခန့်ကွာ ယခုအခေါ် ဗရဗရ်တောင်၊ ရှေးခေတ် အခေါ် ခလတိကတောင်၌တည်ရှိသည်။

### စာအုပ်ပါ စာမူများ။

တည်ရာအရပ်ကိုလိုက်၍၊ အတော်အတန် ကွဲပြားခြင်းရှိသော၊ ပဓာန ကျောက်ဆောင်စာ တစ်ဆယ့်လေးခုတို့၏၊ ပြည့်စုံ သည်ဟု ဆိုလောက်သော မူ ခြောက်မူ ရှိသည့်အနက်၊ ဤစာအုပ်၌ဖေါ်ပြပါရှိသောမူမှာ၊ ကာလ်သိကျောက်ဆောင်စာမူ ဖြစ်လေသည်။

ပဓာနကျောက်တိုင်စာမူတို့သည်ကား၊ ပဓာနကျောက်ဆောင်စာမူတို့လောက်၊ တခုနှင့်တခုကွဲပြားခြားနားခြင်း မရှိလှချေ၊ သရတို့၌သာအရှည်အတိုအားဖြင့်ကွဲပြားသည်ကိုတွေ့ရ၏။သို့ဖြစ်စေကာ ဤစာအုပ်ပါမူမှာ ဒေလီတောပြာမူသာလျှင်ဖြစ်လေသည်။

### စာမူအက္ခရာများ။

စိစဉ်ရေတွက်ဖေါ်ပြခဲ့သော ကျောက်ဆောင်စာ၊ ကျောက်တိုင်စာ၊ ကျောက်ဂူစာတို့ အနက်၊ သျှာဘာဇ်ဂရ်ဟီနှင့် မာန်သေရာ ကျောက်ဆောင်စာတို့မှတပါး၊ကျန်အားလုံးသောကျောက်စာတို့ကို ဗြာဟ္မီအက္ခရာဖြင့် ရေးထိုးလျက်ရှိလေသည်။ သျှာဘာဇ်ဂရ်ဟီနှင့် မာန်သေရာကျောက်ဆောင်စာတို့ကိုသော် ခရောဿဋ္ဌီအက္ခရာဖြင့် ရေးထိုးလျက်ရှိလေသည်။ ခရောဿဋ္ဌီအက္ခရာမှာ၊ အိန္ဒိယ နိုင်ငံ

အနောက်ပိုင်းနှင့်၊ထိုအပိုင်းနှင့်စပ်လျက်ရှိသောပြည်ပနယ်တို့၌သုံး၍ လက်ယာဖက်မှ လက်ဝဲဖက်သို့ ရေးရသော အက္ခရာ ဖြစ်လေသည်။ ဗြာဟ္မီအက္ခရာသည်ကား၊ အိန္ဒိယတနိုင်ငံလုံးတွင်သုံး၍၊ လက်ဝဲဖက်မှ လက်ယာဖက်သို့၊ များစွာသော ခေတ်အက္ခရာတို့ နည်းတူ၊ ရေးရသောအက္ခရာဖြစ်၏၊ထိုဗြာဟ္မီအက္ခရာမှသာ၊အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့ဝယ်၊ ရှေး၌သုံးခဲ့၊ ယခုသုံးဆဲ ဖြစ်သော နာဂရီ၊ ဘင်္ဂလီ၊ ဂုဇရာတီ၊ တေလုဂု-ကနာရီ၊ပျူ၊မွန်၊မြန်မာ၊သျှမ်းစသော အက္ခရာတို့ ပေါက်ပွားဆင်းသက်လာချေ၏။

## စကားမှုဘာသာများ။

ကျောက်စာတို့အား၊လုံးဝဗြာဟ္မီအက္ခရာဖြင့်မဟုတ်၊ခရောဿဋ္ဌီ အက္ခရာဖြင့်လည်း ညှပ်၍ ထည့်သွင်းရေးထိုးလျက် ရှိသော်လည်း၊ သုံးစွဲသောဘာသာစကားမှာ၊ ထိုကာလ၌ အိန္ဒိယတနိုင်ငံလုံးဝယ် အနှံ့အပြားပင် သုံးစွဲလျက်ရှိသည်ဟု ယုံကြည်ရန်ရှိသော မာဂဓ တိုင်းသုံး ပြာကြိုဋ်ဘာသာဟောင်းဖြစ်လေသည်။ ပြာကြိုဋ်ဘာသာ သည်၊ သံသကြိုဋ်ဘာသာနှင့်သော်၎င်း၊ ပါဠိဘာသာနှင့်သော်၎င်း၊ အများအားဖြင့်တူသော်လည်း၊လုံးဝသော်ကားမတူပဲ။ပါဠိဘာသာ ကဲ့သို့ပင်၊သံသကြိုဋ်ဘာသာဟောင်းမှပြောင်းလဲရွေ့လျောလာသော ဘာသာ ဖြစ်လေသည်။ ပါဠိဘာသာ သည်ပင်လျှင်၊ သံသကြိုဋ် ဘာသာမှ နည်းတူ ပြောင်းလဲလာသဖြင့်၊ ပြာကြိုဋ်ဘာသာ တရပ် ဖြစ်သည်ဟုဆိုနိုင်ချေ၏။ ဆိုလည်းဆိုကြ၏။

ပြာကြိုဋ် ဟူသောစကားသည်၊ ပြာကြိတဟူသော သံသကြိုဋ် စကားမှဆင်းသက်လာ၍၊ ပကတိဟူသော ပါဠိစကားနှင့် မိတ်တူ ဖြစ်ပြီးလျှင် “မူလ၊ အရင်းခံ၊ နကို၊ အလိုလို၊ ရိုးရိုး၊ သာမာန်၊ တိုင်းရင်းဘာသာ၊ ဒေသအလိုက် သုံးစွဲသောဘာသာ” ဟူသော အနက်တို့ကို ဆောင်သဖြင့်၊ ဤ၌“တိုင်းရင်းဘာသာ၊ဒေသအလိုက် သုံးစွဲသောဘာသာ” ဟူ၍အနက်ရှိ၏။ ထို့ကြောင့်ပြာကြိုဋ်ဆိုသည် မှာ ဘာသာတခုတည်း၏ အမည်မဟုတ်၊ သံသကြိုဋ် ဘာသာမှ

ရွေ့လျောဆင်းသက်လာ၍၊ တိုင်းရင်း ဘာသာအဖြစ်ဖြင့် ပြောဆို သုံးစွဲခဲ့၊ သုံးစွဲလျက်ရှိသော ဘာသာဟူသမျှကိုပင် ခေါ်ဆိုနိုင်သော အမည်ဖြစ်လေသည်။ သို့ရာတွင် အများအားဖြင့်သော်ကား၊ ပါဠိ မဟုတ်သော၊ သံသကြိုဋ်ပျက် ဘာသာဟောင်းများ ကိုသာ ပြာကြိုဋ် ဟုခေါ်ဆိုလေ့ရှိသည်။ ထိုပြာကြိုဋ်ခေါ် ဘာသာဟောင်းများသည်၊ တနေရာနှင့်တခနေရာ၊ တခေတ်နှင့်တခေတ်မတူ၊ မှု အနည်းအများ၊ ကွဲပြားခြားနားကြလေသည်။ အသောက ကျောက်စာတို့၌လည်း၊ ထို အတိုင်းပင်စာသားအကြောင်းအရာစာမူချင်းတူငြားသော်လည်း ပုဒ် ဗျည်းသဏ္ဍာန် အနေ အထား အသုံး အနှုန်း တို့သည်၊ အရပ်ကို လိုက်၍အချို့သံသကြိုဋ်ဖက်သို့နွယ်ကာ အချို့ပါဠိဖက်သို့နွယ်ကာ၊ တခုနှင့်တခုအနည်းငယ်မျှစီကွဲပြားကြလေသည်။ ဤသို့ကွဲပြားသော ပုဒ်ဗျည်းများကိုလည်း၊ သံသကြိုဋ်မှု, ပါဠိ မိတ္တူတို့နှင့် တိုက်ဆိုင် ညှိနှိုင်း၍ ဘာသာ ပြန်ဆိုရချေ၏။

### အသောကမင်းကြီး၏စီမံဆောင်ရွက်ချက်များ။

သာသနာရေး၊အလှူဒါနရေး၊နိုင်ငံရေး၊တိုင်းပြည်အုပ်ချုပ်ရေး လူတို့၏ ကြီးပွားချမ်းသာရေး၊ ပေါင်းသင်းဆက်ဆံရေး၊ တိရစ္ဆာန် တို့အား စောင့်ရှောက်ရေးတို့၌ သီရိဓမ္မာ သောက မင်းကြီး စီမံ ဆောင်ရွက်ခဲ့သည်တို့အနက်၊အရေးကြီးသည်တို့ကို၊ကျောက်စာတို့မှ ပေါ်ထွက်သည်အတိုင်းအကျဉ်း အချုပ်မျှစီ ဖေါ်ပြရမည်ဆိုသော်-

(၁) သတ္တဝါတို့အားသတ်ဖြတ်၍၊ ယဇ်ပူဇော်ခြင်းကိုတားမြစ် ခြင်း။ (ပဌမကျောက်ဆောင်စာ)

(၂) သတ္တဝါတကောင်အား သတ်ဖြတ်၍၊ အခြားသတ္တဝါ တကောင်အားကျွေးမွေးခြင်း၊ ခြောက်လအောက်အရွယ်တိရစ္ဆာန် ငယ်များနှင့်၊ကိုဝန်ဆောင်၊သို့မဟုတ်သားငယ်ကိုနို့တိုက်နေသော၊ တိရစ္ဆာန်မများအား သတ်ဖြတ်ခြင်း၊ သတ်မှတ်ထားသည့် နေ့ရက် တို့၌၊သူ့အသက်ကိုသတ်ခြင်း၊ တိရစ္ဆာန်ဖိုများကို သင်းကွပ်ခြင်း၊ မြင်းနွားစသည်တို့ကိုတန်ဆိပ်ခတ်ခြင်း၊ ငါးတို့ကိုဖမ်းယူ သတ်ဖြတ်

ရောင်းချခြင်း၊ သတ်မှတ်ထားသည့် နေရာတို့၌ သားငါးတို့အား ဖမ်းဆီး သတ်ဖြတ်ခြင်း၊ သက်ရှိ သတ္တဝါတို့ ခိုအောင်း နေသော မြွပုံများ၊တောများကိုမီးရှို့ခြင်းစသည်တို့အားတားမြစ်ပိတ်ပင်ခြင်း၊ (ပဉ္စမ ကျောက်တိုင်စာ)။

(၃) မိမိကိုတိုင် အသားစားခြင်း၊တောကစားထွက်ခြင်း တို့မှ ရှောင်ကြဉ်ခြင်း။ (ပဌမနှင့် အဋ္ဌမ ကျောက်ဆောင်စာ)

(၄) သေဒဏ်နှင့် အကျဉ်းခံ နေရသူ တို့အား၊ အယူခံရန်၊ ကောင်းမှုကုသိုလ်ပြုရန်၊ သုံးရက်အခွင့်ပေးခြင်း။ သားသမီးအမှီအခို များသူ၊အလုပ်တာဝန်ကြီးလေးသူ၊အိုမင်းမစွမ်းသူတို့အား၊ အပြစ်ရှိ သော်လည်း သက်ညှာ ချမ်း သာ ပေးခြင်း။ မိမိအဘိသိက် ခံ ရက် နှစ်ပတ်လည်စေ့တိုင်း၊ ထောင် အကျဉ်း သားတို့အား လွှတ်ခြင်း။

(စတုတ္ထ ကျောက် တိုင်စာ၊ ပဉ္စမ ကျောက်ဆောင်စာ၊ ပဉ္စမ ကျောက်တိုင်စာ၊)

(၅) နိုင်ငံတော်အတွင်း၌သာမက၊နိုင်ငံတော်၏တောင်ဖက်နှင့် အနောက်ဖက်တလွှားရှိ တိုင်းနိုင်ငံတို့အတွင်း၌ပင်၊ အနှံ့အပြား လူနှင့်တိရစ္ဆာန်တို့၏ဆေးကုဌာန၊ဝါ၊ဆေးရုံများကိုတည်ထားခြင်း ဆေးပင်ဆေးမြစ်၊ ဆေးဖက်ဝင်သော အသီး အနှံ စသည် တို့ကို၊ မရှိသေးသော အရပ်တို့သို့ ဆောင်ယူစိုက်ပျိုး စေခြင်း။ (ဒုတိယ ကျောက်ဆောင်စာ။)

(၆)နိုင်ငံတော်အတွင်းအနှံ့အပြားပင်လမ်းများကိုဖေါက်ခြင်း၊ လမ်းတလျှောက်တို့၌သစ်ပင်များကိုစိုက်ပျိုးခြင်း၊ဥယာဉ်များပြုစုခြင်း ရေတွင်းများကိုတူးခြင်း၊ ရေချမ်းစင် များကိုတည်ခြင်း၊ ဇရပ်များကို ဆောက်ခြင်း၊ ယောနတိုင်းသံအမတ် မေဂသီနိ၏ မှတ်တမ်းအရ၊ လမ်းတို့၌ အကွာအဝေးနှင့် လမ်းခွဲများကို ပြသော မှတ်တိုင်များ ကိုပင်ယခုခေတ်၌ကဲ့သို့စိုက်ထူထားရှိခြင်း။ (သတ္တမကျောက်တိုင်စာ ဒုတိယကျောက်ဆောင်စာ)။

(၇) အယူဝါဒအသီးသီး၊ ဂိုဏ်းအသီးသီးတို့အား၊ အရိုအသေ ပြုခြင်း၊ချီးမြှင့်ထောက်ပံ့ခြင်း၊ အယူဝါဒအသီးသီး၊ ဂိုဏ်းအသီးသီး

သားတို့အား၊ သင့်တင့်ညီညွတ်စွာ နေထိုင်ကြရန်၊ တစ်ဝါဒနှင့် တစ်ဝါဒ၊ တစ်ဂိုဏ်းနှင့်တစ်ဂိုဏ်းမကွဲရဲ့မရှုတ်ချ၊ မပုတ်ခတ်မချုတ်ချယ်ပဲ၊တစ်ဦးနှင့်တဦးရှိသေလေးစား၊ယိုင်းပင်းကူညီကြ၍ မိမိတို့၏ ဘာသာတရား၌ကောင်းစွာလေ့လာကျင့်သုံး ဆောက်တည်ကြရန် ညွှန်ကြားဆုန်းမခြင်း။(သတ္တမနှင့်ဒွါဒသမကျောက်ဆောင်စာများ၊ ဆဋ္ဌမကျောက်တိုင်စာ)။

(၈) ဓမ္မမဟာမာတြာခေါ် တရားအမတ်ကြီးများနှင့် အခြား သာသနာရေး၊အလှူဒါနရေးအမတ်များ၊အရာရှိများကိုခန့်ထား၍ ဗုဒ္ဓသာသနာတော်နှင့်တကွ၊ အခြားဝါဒကွဲ၊ ဂိုဏ်းကွဲ အသီးသီး တို့အားချီးမြှင့်စေခြင်း၊လူတို့အား တရားဟောကြားဆုန်းမစေခြင်း၊ မင်းတရားကြီးနှင့်ဆွေတော်မျိုးတော်၊ နန်းတော်သူနန်းတော်သား အပေါင်းတို့၏အလှူဒါနများကိုစီမံခန့်ခွဲစေခြင်း၊ရဟန်း၊ ပုဏ္ဏား၊ သက်ကြီးရွယ်အို၊ဆင်းရဲ ဒုက္ခရောက်နေသူ၊ ခိုကိုးရာမဲ့ သူတို့အား၊ ထောက်ပံ့မစစေခြင်း၊ အမက်ကြီးများနှင့် အရာရှိကြီး များအား၊ ငါးနှစ်တကြိမ်၊အချို့ နယ်တို့၌ သုံးနှစ်တကြိမ်၊ တိုင်းခမ်းလှည့်လည် တရားပြသဆုန်းမစေခြင်း၊တရားကိုဖြန့်ဖြူးစေခြင်း။ (တတိယ၊ပဥ္စမ နှင့် ပဋ္ဌမကာလိင်္ဂကျောက်ဆောင်စာများ၊ သတ္တမကျောက်တိုင်စာ)

(၉) မိန်းမ များနှင့် ကလေး များ၏ ကြီးပွားရေး အတွက် အမတ်ကြီးများနှင့် အရာရှိများကို ခန့်ထား ဆောင်ရွက် စေခြင်း။ (ဒွါဒသမ ကျောက်ဆောင်စာ)။

(၁၀) အရေးကြီးသော ပိဋကတ်ကျမ်းဂန်များကို၊ ရဟန်း ယောကျ်ား၊ရဟန်းမိန်းမ၊လူယောကျ်ား၊ လူမိန်းမတို့အား၊ သင်အံ လေ့ကျက်ကြားနာစေခြင်း။ (ဘာဗြာကျောက်ဆောင်စာငယ်)။

(၁၁) သံဃာကိုဂိုဏ်းမခွဲရ၊သံဃာကိုဂိုဏ်းခွဲသူရဟန်းယောကျ်ား ရဟန်းမိန်းမအား၊ ဝတ်ဖြူကို လဲစေ၍ ရဟန်းကျောင်းမှ ထွက်ခွာ သွားစေရမည်ဟု ကြပ်တည်းစွာ အမိန့်ထုတ်ခြင်း။ (သာရ်နာတ်၊ ကောသမ္ဗီ၊သာဉ္စီ ကျောက်တိုင် စာငယ်များ)။

# နိဒါန်း

(၁၂) တောင်ဖက်တမ္ဗပဏ္ဏိခေါ် သီဟိုဠ်ကျွန်းတိုင်အနောက်ဖက် အာဖရိကဘိုက်စိရေနေနှင့်အိဂျစ်နိုင်ငံများ၊ ဥရောပတိုက်ဂရိတ်နိုင်ငံများတိုင်၊ ထိုကာလ၌ အဆက်အသွယ်ရှိသော ကပ္ပါ အရပ်ရပ်သို့ သာသနာပြုများကိုစေလွှတ်၍သာသနာကို ပြုစေခြင်း။ (တေရသမ ကျောက်ဆောင်စာ)။

(၁၃) အပြစ်မကင်း၊ အကျိုးယုတ်သောပွဲတို့ကိုပိတ်ပင်၍အကျိုးရှိသောပွဲတို့ကိုစီမံပြုသစေခြင်း။ (ပဉ္စမနှင့် စတုတ္ထကျောက်ဆောင်စာများ)။

(၁၄) လောကီမင်္ဂလာအပေါင်းတို့ထက် တရားမင်္ဂလာသည် အကျိုးများကြောင်း၊ အခြားအလှူများထက် တရားအလှူသည် မြတ်ကြောင်း၊ သီလတရားထက် ဘာဝနာတရား အရေးကြီးကြောင်း ညွှန်ကြားပြီးသော်၊ တရားမင်္ဂလာ၊ တရားအလှူ၊ ဘာဝနာတရားတို့ကို ကျင့်သုံး ဆောက်တည်ရန် လူတို့အား နှိုးဆော် တိုက်တွန်းခြင်း။ (နဝမနှင့် ဧကာဒသမ ကျောက်ဆောင် စာများ သတ္တမ ကျောက်တိုင်စာ)

(၁၅) အဘိသိတ်ခံပြီးရှစ်နှစ်မြောက်၌၊ ကလိင်္ဂတိုင်းကိုတိုက်ခိုက်အောင်မြင်ရာ၊ လူပေါင်းမြောက်မြားစွာ သေကြေပျက်စီးခံရ၊ သုံ့ပန်းအဖြစ်ဆောင်ယူခံရ၊ ဒုက္ခဆင်းရဲအမျိုးမျိုးခံရသည်ကိုတွေ့မြင်သဖြင့်၊ လွန်စွာကြေကွဲဝမ်းနည်းဘော်မူပြီးလျှင်၊ ဤသို့လက်နက်ဖြင့်တိုက်ခိုက်အောင်မြင်ခြင်းကို၊ ကိုတိုင်လည်းစွန့်ပယ်၊ သားစဉ်မြေးဆက်လည်းစွန့်ပယ်စေ၍၊ တရား၏အောင်မြင်ခြင်း၊ ဝါ၊ တရားဖြင့်အောင်မြင်ခြင်းသာလျှင်မြတ်ကြောင်း ဖော်ပြပြီးသော်၊ နိုင်ငံတော်အစွန်အပသားတို့အား၊ တရားဖြင့်သာ အောင်မြင်တော်မူခြင်း။ (တေရသမနှင့် ဒုတိယကလိင်္ဂ ကျောက်ဆောင် စာများ)

(၁၆) ကိုတိုင် အခါမရွေး နေရာမရွေး တိုင်းရေး ပြည်ရေး သါသနာရေးတို့ကို၊ ဆိုင်ရာအမတ်များအားလျှောက်တင်စေ၍ကြားနာဆောင်ရွက်ခြင်း။ ကိုတိုင်မနေမနားတိုင်းခမ်းလှည့်လည်ကြွသွား၍ ရဟန်းပုဏ္ဏားတို့အားဖူးမြှော်ပူဇော်ခြင်း၊ သက်ကြီးရွယ်အို ဆင်းရဲသူ

# နိဒါန်း

ဆင်းရဲသား၊ တောသူတောင်သားတို့နှင့်တွေ့၍ ပေးကမ်းချီးမြှင့်ခြင်း၊ တရားဆွေးနွေးမေးမြန်းခြင်း၊ တရားဟောကြားဆုန်းမခြင်း။ ကိုတိုင်တောကစား၊ အပျော်အပါးမထွက်မူ၍၊ ဖုရားပွင့်တော်မူရာ မဟာဗောဓိ၊ ဖုရားဖွားတော်မူရာ လုမ္ဗိနီ ဥယာဉ်တို့သို့ ကြွသွားဖူးမြော်ပူဇော်ခြင်း၊ ကိုတိုင် တရားကျင့်သုံးဆောက်တည်ခြင်း၊ တရားဌာသည်းစွာအားထုတ်ခြင်း၊ (ဆဌမ၊ အဌမ၊ ဒွါဒသမ ကျောက်ဆောင်စာများ၊ ပဌမဗြဟ္မဂိရိ၊ ရုပ်နာထ်၊ မသ်ကီကျောက်ဆောင်စာငယ်များ၊ ဆဌမကျောက်တိုင်စာ၊ လုမ္ဗိနီ ကျောက်တိုင်စာငယ်။ ))

ကျောက်စာတို့မှ ပေါ်ထွက်သော စီမံ ဆောင်ရွက်ချက်တို့ကို ထောက်ခြင့်သဖြင့်၊ သီရိဓမ္မာသောကမင်းကြီးသည်ကမ္ဘာ့ရာဇဝင်တွင် အမြင့်မြတ်ဆုံးသော ဘုရင်တပါး ဖြစ်ကြောင်း သိနိုင်ပေ၏။ ကမ္ဘာ့ပညာရှိများကလည်း ဤသို့ပင်ဆုန်းဖြတ်လျက်ရှိချေ၏။ ထိုမင်းတရားကြီး၏စီမံ ဆောင်ရွက်ချက်တို့သည် ရှေးနှစ်ပေါင်း နှစ်ထောင်ကျော်ကဖြစ်လင့်ကစား လွန်စွာအထက်တန်းကျ၍၊ ခေတ်ဆံခေတ်မီပြီးလျှင်၊ အချို့နေရာတို့၌၊ ခေတ်ထက်ပင်ကျော်လွန်နေသဖြင့်၊ ခေတ်ကိုပင် နည်းယူအတုခိုးရန်စံပြုလျက်ရှိလေသည်။ မင်းတရားကြီး၏စီမံ ဆောင် ရွက် ချက်အပြည့်အစုံတို့ကို၊ ဆိုင်ရာ ကျောက်စာ မူရင်း ဘာသာပြန်တို့၌နှစ်ခြိုက်စွာဖတ်ရှုကုန်ရာသည်။

# အညွှန်း။

(၁) ၐ၊ ဤအက္ခရာကို ဂ=သျှဟုခေါ်၍၊ အာစောက်ဖြင့် **သျှ** ဟုဖတ်ရွတ်ရမည်။

(၂) ၑ၊ ဤအက္ခရာကို ပ=သျှဟုခေါ်၍၊ လျှာထိပ်ဖြင့် **သျှ** ဟု ဖတ်ရွတ်ရမည်။

(၃) မြန်မာစာတို့၌ **ထ်**၊ **ဒ်**၊ **ရ်**၊ **လ်**၊ **သ်**၊ စသည်ဖြင့် ဗျည်းတို့ကို တံခွန်လွှား၍ရေးသော်၊ ထ၊ ဒ၊ ရ၊ **လ**၊ **သ**၊ သံတို့ကိုပြိပြိကြီး မဖတ်ရွတ်မူ၍။ အသံပေါ်သည်ဆိုရုံ ဖတ်ရွတ်ရသည်။

## ၁။ ပဌမ ကျောက်ဆောင်စာ။

(ဂြာကြိုနှ)

၁။ ။ဣယံ ဓံမလိပိ ဒေဝါနံ ပိယေနာ ပိယဒသိနာ လေခိတာ။ ဟိဒါ နာကိဆိ ဇီဝေ အာလဘိတု ပဇောဟိတဗိယေ။

၂။ ။နော ပိ စ သမာဇေ ကဋဗိယေ။ ဗဟုကာ့ ဟိ ဒေါသာ သမာဇသာ ဒေဝါနံပိယေ ပိယဒသိ လာဇာ ဒခတိ။ အထိ ပိ စ ဧကတိယာ သမာဇ သာဓုမတာ ဒေဝါနံ ပိယသာ့ ပိယဒသိသာ လာဇိနေ။

၃။ ။ပုလေ မဟာနသသိ ဒေဝါနံ ပိယသာ ပိယဒသိသာ လာဇိနေ အနုဒိဝသံ ဗဟူနိ ပါန-သဟသာနိ အာလဘိယိသု သုပဌာယေ။ သေ ဣဒါနိ ယဒါ ဣယံ ဓံမလိပိ လေခိတာ တဒါ တိံနိ ယေဝါ ပါနာနိ အာလဘိယံတိ။

၄။ ။ဒုဝေ မဇုလာ့ ဧကော မိဂေ။ သေ ပိ စ မိဂေ နော ဓုဝေ။ ဧတာနိ ပိ စ တိနိ ပါနာ့နိ နော အာလဘိယိသံတိ။

## ၁။ ပဌမကျောက်ဆောင်စာ
(မြန်မာ)

၁။ ။ဤ တရား ကဗျည်းကို၊ နတ်တို့ချစ်မြတ်နိုးသော' ပိယဒသီ မင်းကြီး ရေးထိုးစေ၏။

ဤအရပ်၌ မည်သည့်အသက်ကိုမျှ သတ်၍ ယာဇ် မပူဇော်ရ။

၂။ ။ပွဲတို့ကိုလည်း မကျင်းပရ။ အချို့ပွဲတို့၌ အကျိုး ရှိသော်လည်း၊ နတ်တို့ ချစ်မြတ်နိုးသော ပိယဒသီ မင်းကြီးသည်၊ပွဲတို့၌ များစွာသောအပြစ်တို့ကိုမြင်၏။

၃၊၄။ရှေး၌၊နတ်တို့ချစ်မြတ်နိုးသော ပိယဒသီမင်းကြီး ၏ စဖိုအိမ်၌၊ နေ့စဉ် ထောင်ပေါင်း များစွာသော အသက်တို့ကို ဟင်းလျာ အလို့ ငှာ သတ်ကုန်၏။ သို့ရာတွင်၊ ယခု ဤတရား ကဗျည်းကို ရေး စေ ပြီး နောက်၊ ဥဒေါင်း နှစ်ကောင်နှင့် သမင် တကောင် သုံးကောင်သော သတ္တဝါတို့ကိုသာလျှင် သတ်ကုန်၏။ ထို အ နက် လည်း သမင်ကို နေ့ စဉ် မ ဟုတ်။ ဤ သုံးကောင်သော သတ္တဝါ .တို့ကိုပင် မသတ်ကြရ ကုန်လတံ့။

## ၂။ ဒုတိယ ကျောက်ဆောင်စာ။

(ဂြာကြိုင့်)

၄။ ။သဝတာ ဝိဇိတသိ ဒေဝါနံ ပိယသာ ပိယ ဒသိသာ လာဇိနေ ယေ စ အံတာ အထာ စောဍာ ပံဍိယာ သာတိယပုတော ကေလလ ပုတော တံဗပံနိ။

၅။ ။အံတိယောဂေ နာမ ယောနလာဇာ ယေ စ အံနေ တသာ အံတိယောဂသာ သာမံတာ လာဇာနော သဝတာ ဒေဝါနံ ပိယသာ ပိယ- ဒသိသာ လာဇိနေ ဒုဝေ စိကီသကာ ကဋာ မနုသစိကီသာ စ ပသုစိကီသာ စ။ ဩသ- ဓာနိ မနုသောပဂါနိ စ ပသောပဂါနိ စ အာဘတာ နယိ။

၆။ ။သဝတာ ဟာလာပိတာ စ လောပါပိတာ စ။ ဧဝမေဝါ မုလာနိ စ ဖလာနိ စ အာဘတာ နယိ သဝတာ ဟာလာပိတာ စ လောပါပိတာ စ။ မဂေသု လုခါနိ လောပိ- တာနိ ဥဒုပါနာနိ စ ခါနာပိတာနိ ပဋိဘောဂါယေ ပသုမုနိသာနံ။

## ၂။ ဒုတိယကျောက်ဆောင်စာ။

(မြန်မာ)

၄၊၅။နတ်တို့ ချစ် မြတ် နိုးသော ပိယဒသီ မင်းကြီး၏ နိုင်ငံတော်အတွင်း အရပ်ရပ် တို့၌ ၎င်း နိုင်ငံတော်၏ အစွန် အ ပ စော ဋ (စောဠ) ပံ ဒိယ (ပဏ္ဍျ) သာတိယာပုတ, ကေလလပုတ, တံဗပံ့နိ (တမ္ဗပဏ္ဏိ) အံ့တိယောဂ (အန္တိယောက) အမည်တော်ရှိသော ယောနမင်းနှင့်၊ ထိုမင်း၏ ပတ်ဝန်းကျင် အခြားမင်း တို့၏ တိုင်းများအတွင်း အရပ်ရပ် တို့၌၎င်း၊ နတ်တို့ ချစ်မြတ်နိုးသော ပိယဒသီ မင်းကြီးသည် လူတို့အား ကုစားခြင်း နှင့် တိရစ္ဆာန်တို့အား ကု စားခြင်း ဟူ သော ဆေး ကု စား ခြင်း နှစ် မျိုး ကို တည် ထား တော်မူ၏။

၅၊၆။လူတို့အဖို့၎င်း၊ တိရစ္ဆာန်တို့အဖို့၎င်း အသုံးဝင် သော ဆေးပင် တို့ကိုလည်း မရှိသေးသော အရပ် တိုင်းတို့သို့ ယူဆောင်စေ၏၊ စိုက်ပျိုးစေ၏။ ထိုနည်း တူစွာ သစ်မြစ် သစ်သီးတို့ကိုလည်း မရှိသေးသော အရပ်တိုင်းတို့သို့ ယူဆောင်စေ၏၊ စိုက်ပျိုး စေ၏။

လူနှင့်တိရစ္ဆာန်တို့ သုံးဆောင် စိမ့်သော၄ာ၊ လမ်း တို့၌ သစ်ပင်တို့ကို စိုက်စေ၍ ရေတွင်းတို့ကို လည်း တူးစေ၏။

## ၃။ တတိယကျောက်ဆောင်စာ။

(ဖြာကြိုဋ္ဌ)

၆။ ။ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ဟေဝံ
အာဟာ။

၇။ ။ဒုဝါဒသ-ဝသာဘိသိတေန မေ ဣယံ အာနပယိ-
တေ၊ သဝတာ ဝိဇိတသိ မမ ယုတာ လဇုကေ
ပါဒေဝိကေ ပံစသု ပံစသု ဝဿေသု အနုသ-
ယာနံ နိခမံတု၊ ဧတာယေဝ အဿာယေ ဣ-
မာယေ ဓံမနုသထိယာ ယထာ အံနာယေ ပိ
ကံမာ ယေ။ သာဓု။

၈။ ။မာတာပိတိသု သုသုသာ မိတသံထုတ-နာတိ-
ကျာနံ စ ဗံဘန-သမနာနံ စ သာဓု ဒါနေ။
ပါနာနံ အနာလံဘော သာဓု၊ အပဝိယာတာ
အပဘံဍတာ သာဓု။ ပလိသာပိ စ ယုတာနိ
ဂနနသိ အနပယိသန္တိ ဟေတုဝတာ စ ဝိယံ
ဇနတော စ။

## ၃။ တတိယကျောက်ဆောင်စာ
(မြန်မာ)

၆။ နတ်တို့ချစ်မြတ်နိုးသော ပိယဒသိ မင်းကြီးသည် ဤသို့မိန့်တော်မူ၏။
၇။ ငါ အဘိသိက်ခံသည့်မှ တစ်ဆဲ့နှစ်နှစ်မြောက်၌ ဤအမိန့်တော်ကို ထုတ်ပြန်တော်မူ၏။

ငါ၏နိုင်ငံတော် အလုံး၌၊ ယုတ ရာဇုက ပါဒေသိက ဟူသော (ရွှေမြို့တော်တိုင်းခရိုင်) အမတ်တို့သည်၊ ငါးနှစ်ငါးနှစ်မြောက်တိုင်း ဤဆိုလတံ့သော တရားအဆုန်းအမအလို့ငှါ၎င်း၊ အခြားအမှုကိစ္စ တို့ အလို့ငှါ၎င်း၊ ခရီးထွက်ခွါလှည့်လည် ကြကုန်ရာသည်။

၈။ အမိအဖတို့အား ကျိုးနွံခြင်းသည် ကောင်း၏။ မိတ်ဆွေ၊ အသိအကျွမ်း၊ ဆွေမျိုး၊ ရဟန်း ပုဏ္ဏားတို့အား ပေးကမ်း လှူဒါန်း ခြင်းသည် ကောင်း၏။ သတ္တဝါတို့၏ အသက်ကို မသတ်ခြင်းသည် ကောင်း၏။ ချွေတာသုံးစွဲခြင်း၊ ပစ္စည်းဥစ္စာကို အသင့်အတင့်သာ ဖုဆောင်းခြင်းသည် ကောင်း၏။

လွှတ်တော်အဖွဲ့ကလည်း ယုတအမတ်များအား၊ အကျိုး အကြောင်းနှင့်တကွ၊ (အမိန့်တော်) စာပါအတိုင်းမှတ်သား၊ နာခံ ကြရန်၊ အမိန့် ထုတ် ဆင့်ကြစေကုန်သတည်း။

## ၄။ စတုတ္ထကျောက်ဆောင်စာ

(ပြာကြိုဋ်)

၉။ ။အတိကံတံ အံတလံ ဗဟုနိ ဝသသတာနိ ဝဍိ-
တေဝ ပါနာလံဘေ ဝိဟိသာ စ ဘုတာနံ
နာတိနံ အသံပတိပတိ သမန ဗံဘနာနံ
အသံပဋိပတိ။ သေ အဇ ဒေဝါနံ ပိယသာ
ပိယဒသိနေ လာဇိနေ ဓံမစလနေနာ ဘေလိ
ဃောသေ အဟော ဓံမဃောသေ ဝိမနဒသနာ။

၁၀။ ။ဟထိနိ အဂိကံဓါနိ အံနာနိ စ ဒိဗျာနိ
လုပါနိ ဒသယိတု ဇနသ။ အာဒိသေ ဗဟုဟိ
ဝသသတေဟိ နော ဟုတပုလုဝေ တာဒိသေ
အဇ ဝဍိတေ ဒေဝါနံ ပိယသာ ပိယဒသိနေ
လာဇိနေ ဓံမနုသထိယေ အနာလံဘေ ပါနာနံ
အဝိဟိသာ ဘုတာနံ နာတိသု။

၁၁။ ။သံပဋိပတိ ဗံဘနသမနာနံ သံပဋိပတိ မာတာ
ပိတိသု သုသုသာ။ ဧသေ စ အံနေ စ ဗဟု-
ဝိဓေ ဓံမစလနေ ဝဍိတေ။ ဝဍိယိသတိ စေဝါ

## ၄။ စတုတ္ထကျောက်ဆောင်စာ
(မြန်မာ)

၉၊ ၁၀။ ။လွန်ခဲ့သော နှစ်ရာပေါင်း များစွာ ကာလတို့၌သူ့အသက်ကိုသတ်ခြင်း၊ သတ္တဝါတို့အားနှိပ်စက်ညှင်း ဆဲ ခြင်း၊ အဆွေ အ မျိုး တို့ အား မရို သေမလေးစားခြင်း၊ ရဟန်း ပုဏ္ဏား တို့အား မဆီးကပ်မကိုးကွယ်ခြင်း တို့သည်၊ တိုးတက်လျက် လာခဲ့၏။ သို့ရာတွင်၊ ယခုသော် နတ် တို့ ချစ် မြတ် နိုး သော ပိယဒသိ မင်းကြီး၏ တရားကျင့်သုံး ဆောက်တည်ခြင်းကြောင့် တိုက် စည် သံ အ စား တ ရား သံ ကိုကြားရ၍၊ နတ်ဗိမာန်ပုံများ ဆင်များ မီးစိုင် မီးရှူးများနှင့် အခြားနတ်တို့၏ အဆင်း သဏ္ဌာန် များကို လူတို့မြင်ကြရလေပြီ။

၁၀၊၁၁။နတ်တို့ ချစ်မြတ်နိုးသော ပိယဒသီမင်းကြီး၏ တရားအဆုန်း အမကြောင့် သူ့အသက်ကို မသတ်ခြင်း၊ သတ္တဝါတို့အား မနှိပ် စက် မ ညှင်း ဆဲ ခြင်း၊ အဆွေအမျိုး တို့အား ရိုသေလေးစားခြင်း၊ ရဟန်း ပုဏ္ဏားတို့အား ဆည်းကပ်ကိုးကွယ်ခြင်း၊ အမိအဖတို့အားကျိုးနွံခြင်းတို့သည်၊ ရှေးအနှစ်ရာပေါင်း များစွာတို့၌ မကြုံဘူးအောင် ယခုတိုးတက် ပြန့်ပွါး လျက်ရှိလေပြီ။

၁၁၊၁၂။ဤနည်းအခြားနည်းတို့နှင့်တကွများစွာသော

ဒေဝါနံ ပိယေ ပိယဒသိလာဇာ ဣမံ ဓံမစလနံ။ ပုတ စ ကံ နုတာလေ စာ ပနာတိကျာ စာ ဒေဝါနံ ပိယသာ ပိယဒသိနေ လာဇိနေ။

၁၂။ ပဝဎယိသံတိ စေဝ ဓံမစလနံ ဣမံ အာဝကပံ ဓံမသိ သီလသိ စာ စိဋ္ဌတု ဓံမံ အနုသာသိ— သံဘိ။ ဧသဟိ သေဋ္ဌေ ကံမံ အံ ဓံမာနုသာသနံ။ ဓံမဇလနေပိ စာ နော ဟောတိ အသီလသာ။ သေ ဣမသာ အထသာ ဝဓိ အဟိနိ စာ သာဓု။ ဧတာယေ အထာယေ ဣယံ လိခိတေ။

၁၃။ ဣမသာ အထသာ ဝဓိ ယုဇံတု ဟီနိ စ မာ အလောစယိသု။ ဒုဝါဒသဝဂါဘိသိတေနာ ဒေဝါနံ ပိယေနာ ပိယဒသိနာ လာဇိနာ လေခိတာ။

နည်းတို့ဖြင့် တရား ကျင့်သုံး ဆောက်တည် ခြင်းကို တိုးတက်ပြန့်ပွါးစေခဲ့လေပြီ။ နတ်တို့ ချစ်မြတ်နိုးသော ပိ ယ ဒ သီ မင်း ကြီး သည်၊ ဤ တ ရား ကျင့် သုံး ဆောက်တည်ခြင်းကို ဆက်လက်၍လည်း တိုးတက် ပြန့် ပွါး စေလိမ့်ဦးအံ့။ နတ်တို့ ချစ်မြတ်နိုး သော ပိယဒသီမင်းကြီး၏ သားတော် မြေးတော် မြစ်တော် တို့သည်လည်း ထိုနည်းတူစွာ ကပ္ပါပတ်လုံး တရား ကျင့်သုံးဆောက်တည်ခြင်းကို ဆက်လက်၍ တိုးတက် ပြန့်ပွါးစေလိမ့်ဦးအံ့။ မိမိတို့ကိုတိုင် တရား၌ ရင်း အကျင့်သီလ၌ရင်း မြဲစွာတည်လျက် တရားအဆုန်း အမကိုပေးကြကုန်လတံ့။ ဤသို့ တရားအဆုန်းအမ ပေးခြင်းသည် အမွန်မြတ်ဆုံးသော အမှုစင်စစ်ဖြစ်၏။ အကျင့်သီလမဲ့သူတို့အဖို့၊ တရား ကျင့်သုံး ဆောက် တည်ခြင်း မဖြစ်နိုင်။ ထို ကြောင့် တရားကျင့် သုံး ဆောက်တည်ခြင်း၏ မဆုတ်မယုတ် ပွါးတိုးခြင်းသည် ကောင်း၏။

၁၃။ ဤအလို့ငှါ ဤတရားကဗျည်းကို ရေးထိုးစေ၏၊ တရားကျင့်သုံးဆောက်တည်ခြင်း၏ ဆုတ်ယုတ်ခြင်းကို မဖြစ်စေပဲ၊ ပွါးတိုးခြင်းအလို့ငှါအားထုတ်ကြကုန်လေ။

နတ်တို့ချစ်မြတ်နိုးသော ပိယဒသီမင်းကြီးသည်၊ အ ဘိ သိက် ခံ သည်၏ တစ်ဆဲ့နှစ် နှစ် မြောက် ၌ (ဤတရားကဗျည်းကို) ရေးထိုးစေ၏။

## ၅။ ပဉ္စမကျောက်ဆောင်စာ

(ဖြာကြိုင်)

၁၃။ ။ဒေဝါနံ ပိယေ ပိယဒသိ လာဇာ့။ အဟာ၊ ကယာနေ ဒုကလေ။ ဧ အာဒိ ကလေ ကယာနသာ သေ ဒုကလံ ကလေတိ၊ သေ မမယာ ဗဟု ကယာနေ ကဋေ။ တာ မမ ပုတာ စ နတာလေ စ။

၁၄။ ။ပလံ စ တေဟိ ယေ အပတိယေ မေ အာဝကပံ တထာ အနုဝဋိသံတိ သေ သုကဋံ ကဆံတိ။ ဧ စု ဟေတာ ဒေသံ ပိ ဟာပယိ-သတိ သေ ဒုကဋံ ကဆတိ၊ ပါပေ ဟိ နာမ သုပဒါလယေ။ သေ အတိကံတံ အံတလံ နော ဟုတပုလုဝ ဓံမမဟာမာတာ နာမ။ တေ-ဒသဝသာဘိသိတေနာ မမယာ ဓံမမဟာ-မာတာ ကဋာ။ တေ သဝပါသံဍေသု ဝိယာ ပဋာ။

၁၅။ ။ဓံမာဓိဌာနာယေ စ ဓံမဝဍိယာ ဟိဒ သုခါယေ စ၊ ဓံမယုတသာ ယောန-

## ၅။ ပဌမကျောက်ဆောင်စာ။
(မြန်မာ)

၁၃၊၁၄။နတ်တို့ ချစ်မြတ်နိုးသော ပိယဒသိ မင်းကြီး မိန့်တော်မူသည်မှာ—

ကောင်းမှုကို ပြုရန် ခဲ ယဉ်း၏၊ ကောင်းမှုကို ပြုသောသူသည် ခဲယဉ်းသောအမှုကို ပြုသည်မည်၏။ ငါသည် များစွာသော ကောင်းမှုတို့ကို ပြုခဲ့လေပြီ။ ငါ၏ သားမြေး တို့နှင့် ၎င်းတို့၏ အဆက် အနွယ် တို့သည်၊ ကပ္ပါ တည်သ၍ ကာလပတ်လုံး၊ ငါ၏ နည်းတူ လိုက်နာ ဆောင်ရွက်ကြသော်၊ ကောင်းမှုကို ပြုသည် မည်လတံ့။ ဤအမိန့်၏ တစိတ်ဘဒေသမျှ ကိုပင် ဖေါက်ဖျက် ကျူးလွန်သော သူ သည်ကား၊ မကောင်းမှုကို ပြုသည်မည်လတံ့။ မကောင်း ဆိုး ယုတ် သော အမှုတို့ကိုကား ပြုလုပ် ဆောင်ရွက် လွယ်၏။

၁၄၊၁၅။ရှေး လွန်ပြီးသော ကာလတို့၌၊ ဓမ္မမဟာ မာတာခေါ် တရားအမတ်ကြီးများဟူ၍ မရှိခဲ့ဘူးချေ။ ငါ အဘိသိက်ခံသည်မှ တစ် ဆဲ့ သုံး နှစ် မြောက်၌ ဓမ္မ မဟာမာတာခေါ်တရား အမတ်ကြီးများကို ခန့်

ကံဗောဇ- ဂန္ဓာလာနံ ဧဝါပိ အံနေ အပလံ-
တာ။ ဘဋမယေသု ဗံဘနိဘေသု အနထေသု
ဝုဓေသု ဟိဒသုခါယေ ဓံမယုတာယေ
အပလိဗောဓါယေ ဝိယာပဋာ တေ။ ဗံဓန
ဝဓသ ပဋိဝိဓါနာယေ အပလိဗောဓါယေ
မောခါယေ စ ဧယံ အနုဘဓံ ပဇာဝ
တိ ဝါ။

၁၆။ ။ကဋာဘိကာလေ တိ ဝါ မဟာလကေ တိ
ဝါ ဝိယာပဋာ တေ။ ဟိဒ ဗါဟိလေသု စ
နဂလေသု သဝေသု ဩလောဓနေသု ဘာ-
တိနံ စ နေ ဘဂိနီနာ ဧဝါပိ အံနေ နာတိ-
ကျေ သဝတာ ဝိယာပဋာ။ ဧ ဣယံ ဓံမနိသိ=
တေ တိ ဝါ ဒါနသံယုတေ တိ ဝါ သဝတာ
ဝိဇိတသိ မမာ ဓံမယုတသိ ဝိယာပဋာ တေ
ဓံမမဟာမာတာ။ ဧတာယေ အဋ္ဌာယေ။

၁၇။ ။ဣယံ ဓံမလိပိ လေခိတာ။ စိလထိတိကျာ
ဟောတု တထာ စ မေ ပဇာ အနုဝတံတု။

ထားခဲ့လေပြီ။ ထို အမတ်ကြီး များသည် တရား တည်တံ့ခိုင်မြဲစေရန်ငှင်း၊ တရားကို တိုးတက် ပြန့်ပွါး စေရန်ငှင်း၊ တရား ကျင့်သုံး ဆောက်တည်သူတို့နှင့် တကွ၊ယောနု၊ ကမ္ဘောဇ၊ ဂန္ဓာရနှင့် အခြားတိုင်းစွန် ပြည်ပသားတို့၏ စီးပွါးချမ်းသာအလို့ငှါငှင်း၊ အလုံး စုံသော အယုဝါဒ ဂိုဏ်းတို့၌ပင် ဆောင်ရွက်လျက် ရှိကြလေပြီ။

၁၅၊၁၆။အစေအပါးနှင့်အရှင်သခင်၊ရဟန်းပုဏ္ဏားနှင့် အလုပ်အကျွေး၊ ခိုကိုးရာမဲ့သူ၊ သက်ရွယ်ကြီးရင့် အိုမင်းသူတို့၏ စီးပွါးချမ်းသာ အလို့ငှါနှင့်၊ တရား ကျင့်သုံး ဆောက်တည်နေသူတို့၏၊ နှောင့်ယှက် ကင်းမဲ့ခြင်း အလို့ငှါလည်း၊ (ထိုအမတ်ကြီးများ) ဆောင်ရွက်လျက်ရှိကြကုန်၏။

သားသမီးများသူ၊ကြီးလေးသော အလုပ်တာဝန် များကိုလုပ်ကိုင် ဆောင်ရွက် နေရသူ၊ အိုမင်းမစွမ်း ရှိသူတို့အား၊ နှောင်ဖွဲ့ ကွပ်မျက်ခြင်းမှ တားဆီး၍၊ အနှောင့်အယှက်မရှိ၊ လွတ်ငြိမ်း ချမ်းသာခွင့် ရရန် လည်း၊ ထိုအမတ်ကြီးများ ဆောင်ရွက်လျက် ရှိကြ ကုန်၏။

၅၂ (ပါဋလိပုတ်ပြည်) နှင့် ပြင်ပမြို့တို့ဝယ်၊ ငါ၏ ညီတော် နှမတော်နှင့် အခြား ဆွေတော်မျိုးတော် တို့၏၊ နန်းတော်အိမ်တော် အပေါင်းတို့နှင့် ခပ်သိမ်း

## ၆။ ဆဋ္ဌမ ကျောက်ဆောင်စာ။

(ပြာကြိုရှု)

၁၇။ ။ဒေဝါနံ ပိယေ ပိယဒဿိ လာဇာ ဟေဝံ
အာဟာ။ အတိကံတံ အံတလံ နော ဟုတ-
ပုလုဝေ သဝံ ကာလံ အဋ္ဌကံမေ ဝါ ပဋိ-
ဝေဒနာ ဝါ။ သေ မမယာ ဟေဝံ ကဋေ။ သဝံ
ကာလံ အဒမနိသာမေ။

၁၈။ ။ဩလောဓနေသိ ဂဘာဂါလသိ ဝစသိ ဝိနိတသိ
ဥယာနသိ သဝတာ ပဋိဝေဒကာ အဋ္ဌံ

သော အရပ်တို့၌ပင် ထို အမတ်ကြီးများ ဆောင်ရွက် လျက်ရှိပေ၏။

ဤသို့လျှင် ငါ၏ နိုင်ငံတော်တဝှမ်းလုံးတွင် တရား တည်တန့်၍၊ အလျှုစွဲ၌မြဲရန်၊ ထိုတရားအမတ်ကြီးတို့ သည် တရားကျင့်သုံး ဆောက်တည်ကာ ဆောင်ရွက် လျက်ရှိကြကုန်၏။

၁၇။ ဤအလို့ငှာဤတရားကဗျည်းကို ရေးသားစေ၏ အစွန့်ရှည်စွာ တည်မြဲပါစေသတည်း။ ငါ၏ တိုင်းသူ ပြည်သားတို့သည်လည်း ထို့အတိုင်း လိုက်နာ ပြုကျင့် နိုင်ကြပါစေသတည်း။

**၆ ။ဆဋ္ဌမကျောက်ဆောင်စာ။**

(မြန်မာ)

၁၇၊ ၁၈။ နတ်တို့ ချစ်မြတ်နိုးသော ပိယဒဿိ မင်းကြီး သည် ဤသို့ မိန့်တော်မူ၏။

လွန်လေပြီးကာလ၌ အခါခပ်သိမ်း အမှုကိစ္စတို့ကို ဆောင်ရွက်ခြင်း၊ လျှောက်ထား အစီရင်ခံခြင်း ဟူ၍ မရှိခဲ့ဘူးချေ။ ယခုသော် ငါဘုရင် မင်းမြတ်သည် ဤသို့ စီမံ ထားခဲ့လေပြီ။

ငါသည် စားတော်ခေါ်နေသည် ဖြစ်စေ၊ အတွင်း ဆောင်၌ရှိသည်ဖြစ်စေ၊ စက်ခန်း ဆောင်၌ ရှိသည်

ဇနသာ ပဋိဝေဒိတုမေ။ သဝတာ ဇနသာ
အဋ္ဌံ ကဆာမိ ဟကံ၊ ယံ ပိ စ ကိဆိ မုခ-
ဘေ အာနပယာမိ ဟကံ ဒါပကံ ဝါ
သာဝကံ ဝါ ယေ ဝါ ပုနာ မဟာမာတေဟိ။

၁၉။ ။အတိယာယိကေ အာလောပိတံ ဟောတိ
တာယေဋ္ဌာယေ ဝိဝါဒေ နိဈတိ ဝါ သံတံ ပလိ
သာယေ အနံတလိယေနာ ပဋိ (ဝေဒေတ)
ဝိယေ မေ သဝတာ သဝံ ကာလံ ဟေဝံ
အာနပယိတေ မမယာ။ နထိ ဟိ မေ ဒေါသေ
ဝ ဥဋ္ဌာနသာ အဋ္ဌသံတိလနာယေ စ။
ကဋ္ဋဝိယမုတေ ဟိ မေ သဝလောကဟိတေ။
တသ ပုနာ ဧသေ မုလေ ဥဋ္ဌာနေ။

၂၀။ ။အဋ္ဌသံတိလာနာ စ၊ နထိ ဟိ ကံမတလာ
သဝလောကဟိတေနာ။ ယံ စ ကိစိ ပလက-
မာမိ ဟကံ။ ကိတိ ဘုတာနံ အနနိယံ ယေတံ
ဟိဒ စ ကာနိ သုခါယာမိ ပလတ စ သွဂံ
အာလာဓယိတု။ သေ ဧတာယေ အဋ္ဌာယေ ဣယံ
ဓံမလိပိ လေခိတာ။ စိလဋ္ဌိကျာ ဟောတု

ဖြစ်စေ၊ သန့်သက်ရာ၌ ရှိသည် ဖြစ်စေ၊ တိုင်းခန်းလှည့်လည် နေသည်ဖြစ်စေ၊ ဥယာဉ်တော်၌ ရှိသည် ဖြစ်စေ၊ နေရာခပ်သိမ်း တို့၌ပင်၊ အခါခပ်သိမ်း နားခံတော်တို့သည်၊ တိုင်းသူ ပြည်သား တို့၏ အမှု ကိစ္စ ဟူသမျှကို၊ ငါ့အား တင် လျှောက် စေ သ တည်း။ ငါသည် တိုင်းသူပြည်သား တို့၏ အမှုကိစ္စဟူသမျှကို၊ နေရာမရွေးဆောင်ရွက်ပါအံ့။

၁၇၊ ၁၈။ ငါသည် အလှူတော်အမတ်အားဌင်း၊ သံတော်ဆင့်အားဌင်း၊ တစုံတရာကို နှုတ်အားဖြင့်အမိန့်ပေးသောအခါဖြစ်စေ၊ သို့မဟုတ်၊ အမတ်ကြီး တို့က ထိုအမိန့်များကို အရေးကြီးသဖြင့် တဖန် ဆင့်ဆိုသော အခါ၌ဖြစ်စေ၊ ဝိဝါဒ သော် ဌင်း၊ စင်းစားဖွယ် (သံသယ) သော်ဌင်း ရှိခဲ့သော်၊ အမတ် အစည်း အဝေးက၊ ငါ့အား လျင်စွာ သာလျှင်၊ နေရာမရွေး အခါမရွေး လျှောက်တင် စေသတည်း။ ဤသို့ငါအမိန့် ချမှတ်ထားတော်မူလေပြီ·

၁၉၊ ၂၀။ ထကြွလုံ့လပြုခြင်းနှင့်အမှုကိစ္စတို့အား ထမြောက်အောင် ဆောင်ရွက်ခြင်း၌၊ ငါ ရောင့်ရဲသည် ဟူ၍မရှိ၊ ခပ်သိမ်းသော လောက၏ အကျိုးကို ဆောင်ရွက်ရန် ငါရည်ရွယ်လျက်ရှိ၏။ ဤသည်တို့ကား ငါ၏ ထကြွ လုံ့လ ပြုခြင်းနှင့်၊ အမှု ကိစ္စ တို့အား

တထာ စ မေ ပုတဒါလေ ပလကမာတု သဝလောကဟိတာယေ၊

၂၁။ ။ဒုကလေစ ဣယံ အနတာ အဂေနာ ပလက-မေနာ။

ထမြောက်အောင် ဆောင်ရွက်ခြင်းတို့၏ အကြောင်း ရင်းတို့ပေတည်း။ ခပ်သိမ်းသောလောက၏ အကျိုးကို ဆောင်ရွက်ခြင်းမှ တပါး၊ ငါ၌အခြား ဆောင်ရွက် ဖွယ်ဟူ၍မရှိ။ အဘဲ့ကြောင့် ဤသို့ ငါ ကြိုးစား အား ထုတ်ပါသနည်းဆိုသော်၊ ငါသည် မိမိအပေါ်၌ တင် ရှိသော သတ္တဝါတို့၏ကြွေးမှ ကင်းလွတ်၍၊ ၎င်းတို့ အား ဤဘဝ၌ ချမ်းသာကို ရစေ၍၊ နောင်ဘဝ၌ လည်း နတ်ပြည်သို့ ရောက်စေရန် ဖြစ်၏။

ဤအကျိုးငှာ ဤတရားကဗျည်းကို ရေးထိုးစေ၏။ အရှည် တည်မြဲပါစေ သတည်း။ ငါ၏ သား မြေး အ ဆက်အနွယ်တို့သည် ခပ်သိမ်းသော လောက၏ အ ကျိုးငှာ အားထုတ်ကြစေ ကုန်သတည်း။

၂၁။ သည်းစွာ အားထုတ်ခြင်းနှင့်ကင်း၍လည်း၊ ဤအမှုကို ဆောင်ရွက်ရန် ခဲယဉ်းချေ၏။

## ၇၊ သတ္တမကျောက်ဆောင်စာ။

(ဖြာကြိုင့်)

၂၁။ ။ဒေဝါနံပိယေ ပိယဒသိ လာဇာ သဝတာ ဣဆတိ သဝပါသံဍ ဝသေဝု။ သဝေ ဟိတေ သယံမံ ဘာဝသုဓိ စ ဣဆံတိ ဇနေ စု ဥစာဝုစာဆံဒေ ဥစာဝုစ-လာဂေ။ တေ သဝံ ဧကဒေသံ ပိ ကဆံတိ။ ဝိပုလေ ပိ စု ဒါနေ အသာ နှထိ။

၂၂။ သယမေ ဘာဝသုဓိ ကိဋနာတ ဒိဎဘတိတာ စ နိစေ ဗာဎံ။

## ၇။ သတ္တမကျောက်ဆောင်စာ။

(မြန်မာ)

၂၁၊ ၂၂။ ခပ်သိမ်းသော အရပ် တို့၌၊ ခပ်သိမ်းသော အယူဝါဒကွဲ ဂိုဏ်းသားတို့သည် (သင့်တင့်ညီညွတ်စွာ) နေခြင်းငှာ၊ နတ်တို့ ချစ်မြတ်နိုးသော ပိယဒသီ မင်းကြီး အလိုရှိတော်မူ၏။

လူတို့သည်အလိုဆန္ဒတို့၌ဖြစ်စေ၊ ကြိုက်နှစ် သက်ခြင်းတို့၌ဖြစ်စေ၊ အနိမ့်အမြင့်အားဖြင့် ကွဲပြားကြစေကာ၊ ကိုနှုတ်နှစ်လုံး စောင့်စည်းခြင်းနှင့် စိတ်သဘောဖြူစင်ခြင်းကို စင်စစ် အလိုရှိကြသည် ချည်းဖြစ်၏။ ထိုတရားတို့အား အကုန်အစင်သော်၎င်း၊ တစိတ်တဒေသမျှသော်၎င်း၊ ကျင့်ဆောင် ကုန်ရာသည်။

ခန်းနားသော အလှူကြီးကို မပေးနိုင် စေကာ၊ ကိုနှုတ်နှလုံးစောင့်စည်းခြင်း၊ စိတ်သဘော ဖြူစင်ခြင်း၊ ကျေးဇူးသိတတ်ခြင်း၊ စွဲမြဲစွာ ကြည်ညိုခြင်းတို့၌၊ မပြတ် ထက်သန် ကုန်ရာသည်။

## ၈ ။ အဋ္ဌမကျောက်ဆောင်စာ

(ပြာကြိုဋ္ဌ)

၂၂။ ။အတိကံတံ အံတလံ ဒေဝါနံပိယာ ဝိဟာလယာတံ နာမ နိခမိသု။ ဟိဒါ မိဂဝိယာ အံနာနိ စာ ဟေဒိသာနိ အဘိလာမာနိ ဟုသု။ ဒေဝါနံပိယေ ပိယဒသိ လာဇာ ဒသဝသာဘိသိတေ သံတံ နိခမထာ သံဗေါဓိ။

၂၃။ ။တေနတာ ဓံမယာတာ။ ဟေတာ ဣယံ ဟောတိ သမနဗံဘနာနံ ဒသနေ စ ဒါနေ စ ဝုဓါနံ ဒသနေ စ ဟိလံနပဋိဝိဓါနေ စာ ဇာနပဒသာ ဇနသာ ဒသနေ ဓံမာနုသထိ စာ ဓံမပလိပုဆာ စ၊ တတောပယာ ဧသေ ဘုယေ လာတိ ဟောတိ ဒေဝါနံပိယသာ ပိယဒသိသာ လာဇိနေ ဘာဂေ အံနေ။

## ဂ။ အင္ဂုမ ကျောက်ဆောင်စာ။

(မြန်မာ)

၂၂၊ ၂၃။ ရှေးလွန်လေပြီးကာလတို့၌၊ နတ်တို့ချစ်မြတ်နိုးသူမခေါ် (မင်း) တို့သည်၊ အပျော်အပါး (၄တော ကစား) ထွက်ခြင်းဟုခေါ်သော ခရီးထွက်ခြင်းကို ပြုလေ့ရှိကြ၏။ ဤသို့ခရီးထွက်ရာ၌ အမဲလိုက်ခြင်းနှင့် အခြားနည်းတူ အပျော်အပါးတို့ရှိကုန်၏။

နတ်တို့ ချစ်မြနိုးသော ပိယဒသီမင်းကြီးသည် အဘိသိတ်ခံသည်၏ ဆယ်နှစ်မြောက်၌ မဟာ ဗောဓိသို့ ခရီးထွက်တော်မူ၏။ ထိုသို့ထွက်ခြင်းကား၊ တရား ခရီးထွက်ခြင်းဖြစ်၏။ ဤသို့ထွက်ရာ၌ ရဟန်း ပုဏ္ဏား တို့အား ဖူးမြော်ခြင်း၊ လှူဒါန်းခြင်း၊ သက်ကြီး တို့အား တွေ့မြင်ခြင်း၊ ရွှေအသပြာတို့ကို ခွဲဝေ ပေးကမ်းခြင်း၊ ဇနပုဒ်တို့၌ နေကုန်သော ဇနပုဒ်သား တို့အား တွေ့မြင်ခြင်း၊ တရားတော်၌ ဆုမ္မည်ဩဝါဒပေးခြင်း၊ တရားတော်နှင့်စပ်လျဉ်း၍ ဆွေးနွေးမေးမြန်းခြင်း တို့ကို ပြုပို၏။ ဤသည်တို့သည် အမဲလိုက်ခြင်းစသော အပျော်အပါးတို့ထက် မင်းကြီးအား ပို၍နှစ်သက်စေ၏။ ဤကား နတ်တို့ချစ်မြတ်နိုးသော ပိယဒသီ မင်းကြီး၏ ထူးခြားသော ကံ ပေတည်း။

## ၉။ နဝမ ကျောက်ဆောင်စာ။

(ပြာကြိုဋ်)

၂၄။ ။ဒေဝါနံပိယေ ပိယဒသိ လာဇာ အာဟာ။
ဇနေ ဥစာဝုစံ မံဂလံ ကလေတိ။ အာဗါ
ဓသိ အဝါဟသိ ဝိဝါဟသိ ပဇောပဒါယေ
ပဝါသသိ ဧတာယေ အံနာယေ စာ ဧဒိ–
သာယေ ဇနေ ဗဟု မံဂလံ ကလေတိ။ ဟေတ
ဂု အဗကဇနိယော ဗဟု စာ ဗဟုဝိဓံ စာ
ခုဒါ စာ နိလထိယာ စာ မံဂလံ ကလံတိ။

၂၅။ ။သေ ကဋဝိယေ စေဝ ခေါ မံဂလေ။အပဖလေ
ဂု ခေါ ဧသေ။ ဣယံ ဇု ခေါ မဟာဖလေ ယေ
ဓံမမဂလေ။ ဟေတ ဣယံ ဒါသဘဋကသိ
သမျာပဋိပတိ ဂုလုနာ အပစိတိ ပါနာနံ
သယမေ သမနဗံဘနာနံ ဒါနေ။ဧသေ အံနေ
စာ ဟေဒိသေ တံ ဓံမမဂလေ နာမ။ သေ
ဝတ ဝိယေ ပိတိနာ ပိ ပုတေန ပိ ဘာတိနာ
ပိ သုဝါမိကေနာ ပိ မိတသံထုတေနာ (ဝိ)
အာဝ ပဋိဝေသိယေနာ ပိ။

၂၆။ ။ဣယံ သာဓု ဣယံ ကဋဝိယေ မဂလေ အာဝ
တသာ အထသာ နိဝုတိယာ။ ဣမံ ကထမိတိ။

## ၉။ နဝမကျောက်စာ
(မြန်မာ)

၂၄။ နတ်တို့ချစ်မြတ်နိုးသော ပိယဒသိ မင်းကြီး မိန့်တော်မူသည်မှာ—

လူတို့သည် မင်္ဂလာ ကြီးငယ် တို့ကို ပြုလေ့ ရှိကြကုန်၏၊ ဖျား နာ သော အခါ၊ သား သမီး များကို ထိမ်းမြားသောအခါ၊ သားသမီး ဖွါးမြင်သော အခါ၊ ခရီးထွက်ခါနီးအခါ၊ ဤအခါတို့နှင့်၊ အခြားအလားတူ အခါတို့၌၊ လူတို့သည်များစွာသော မင်္ဂလာတို့ကို ပြုလေ့ရှိကြကုန်၏၊ ထိုမှတပါး၊ သား သမီး ရှိသော မိန်းမတို့သည်လည်း၊ အထူးထူးအပြားပြား၊ မြောက်မြားလှ၍၊ သေးနုပ်အကျိုးမဲ့သော မင်္ဂလာတို့ကိုပြုလေ့ ရှိကြကုန်သေး၏။

၂၅။ ဤမင်္ဂလာများကို စင်စစ် ပြုအပ် ပါပေ၏။ သို့ရာတွင် ၎င်းတို့သည် အကျိုးမများလှချေ။ တရားမင်္ဂလာသည်သာလျှင် အကယ် အကျိုး များချေ၏။ တရားမင်္ဂလာဆိုသည်မှာ၊ ကျေးကျွန်အစေခံတို့အား ကောင်းစွာ ပြုစုသိမ်းမြန်းခြင်း၊ ဆရာ အရှင်တို့အား ရိုသေ မြတ်နိုးခြင်း၊ သတ္တဝါ တို့အား ထိန်းသိမ်းစောင့်ရှောက်ခြင်း၊ ရဟန်း ပုဏ္ဏားတို့အား ပေးလှူခြင်းတို့ပေတည်း။ ဤဆိုခဲ့ပြီးသည် တို့နှင့်၊ အခြားအလားတူ (ပြုမူဆောင်ရွက်ခြင်း) တို့သည်၊ တရား

ဧဟိ ဣဝလေ မဂလေ သံသယိကျေ သေ ဟောတိ သိယာ ဝ တံ အဌံ နိဝဋေယာ သိယာ ပုနာ နော ဟိဒလောကိကေ စေဝ သေ။ ဣယံ ပုနာ ဓံမမဂလေ အကာလိကျေ။ ဟံစေ ပိ တံ အဌံ နော နိ(ဝ)ဋေတိ ဟိဒ အဌံ ပလတ အနံတံ ပုံနံ ပသဝတိ။ ဟံစေ ပုနာ တံ အဌံ နိဝဋေတိ ဟိဒ တတော ဥဘယေသံ။

၂၇။ ။လဓေ ဟောတိ ဟိဒ စ သေ အဌေ ပလတာ စ အနံတံ ပုံနံ ပသဝတိ တေနာ ဓံမ-မဂလေနာ။

မင်္ဂလာမည်ကုန်၏။ ထိုမင်္ဂလာအကြောင်းကို၊ အဖသည်ရင်း၊ သားသည်ရင်း၊ ညီအစ်ကိုတို့သည်ရင်း၊ အသျှင်သည်ရင်း၊ မိတ်ဆွေအသိအကျွမ်း သည်ရင်း၊ အိမ်နီးချင်းသည်ရင်း၊ ဤသို့ ပြောဟောသင့်၏။

၂၆၊ ၂၇။ ဤတရား မင်္ဂလာသည် ကောင်း၏။ ဤတရားမင်္ဂလာကို လိုအပ်သော အကျိုးပြီးမြောက်စိမ့်သောငှာ ဆောင်ရွက်အပ်၏။

မည်သည့်အကျိုးကို အဘယ်သို့ ပြီးမြောက်စေပါသနည်း ဆိုသော်၊ ယခု ဆောင်ရွက်လျက် ရှိသော (လောကီ) မင်္ဂလာတို့သည် လိုရာ အကျိုးကို ပြီးမြောက်စေမည်၊ မပြီး မြောက်စေ မည်ကို သံသယဖြစ်ဖွယ်ရှိ၏။ အကျိုး ပြီးမြောက် စေကာမူ၊ ဤလောက အဖို့သာလျှင် ဖြစ်၏။ ဤတရား မင်္ဂလာသည်ကား အခါမရွေးအကျိုးပေး၏။ ဤလောက၌ အကျိုး မပေးစေကာမူ၊ တမန္တန်လောက၌ အတိုင်းမသိသော ကုသိုလ် အကျိုးကိုပေး၏။ ဤလောက၌လည်း အကျိုး ပြီးမြောက်သော်၊ ဤ လောက၏ အကျိုး၊ တမန္တန် လောက၏ အတိုင်း မသိသော ကုသိုလ် အကျိုးဟု ဆိုအပ်သော၊ အကျိုး နှစ်ပါး စလုံးကိုပင် ဤတရားမင်္ဂလာဖြင့် ရရှိ ခံစားရချေ၏။

## ၁၀ ။ ဒသမ ကျောက်ဆောင်စာ။

(ပြာကြိုင္)

၂၇။ ။ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ယၑော ဝါ
ကိတိ ဝါ နော မဟာယာဝါ (ဟာ) မနတိ
အနတာ။ယံ ပိ ယသော ဝါ ကိတိ ဝါ ဣဆ=
တိ တဒတွာယေ အယတိယေ စ ဇနေ
ဓံမ သုသုၑါ သုသုၑါတု မေ တိ ဓံမဝတံ ဝါ
အနုဝိဓိယတု တိ။ဧတကာယေ ဒေဝါနံပိယေ
ပိယဒသိ။

၂၈။ ။လာဇာ ယၑော ဝါ ကိတိ ဝါ ဣဆတိ။အံ
စ ကိဆိ ပလကမတိ ဒေဝါနံပိယေ ပိယဒၑိ
လာဇာ တ ၑဝံ ပါလတိကျာယေ ဝါ။ ကိတိ။
သကလေ အပပလိၑဝေ ၑိယာတိတိ။ဧၑေ စု
ပလိၑဝေ ဧ အပုံနေ။ ဒုကလေ စု ခေါ ဧၑေ
ခုဒကေန ဝါ ဝဂေန ဥၑုဋေန ဝါ အနတ
အဂေနာ ပလကမေနာ။ ၑဝံ ပလိတိဒိတု။
ဟေတ စု ခေါ။

၂၉။ ။ဥၑဋေန ဝါ ဒုကလေ။

## ၁၀။ ဒသမ ကျောက်ဆောင်စာ။

(မြန်မာ)

၂၇၊ ၂၈။ဖုန်းတန်ခိုး၊အကျော်အစောတို့သည်တမန္တန် လောကၚ္ဂ အကျိုး ကြီးသည်ဟု၊ နတ်တို့ ချစ်မြတ်နိုး သော ပိယဒသီမင်းကြီး ထင်မှတ်တော် မမူ။

အလိုရှိ အပ်သော ဖုန်းတန်ခိုး၊ အကျော်အစော တို့သည်ကား၊ ယခုမျက်မှောက်နှင့် နောင်အနာဂတ် ကာလတို့၌၊ လူတို့သည် ကြားနာ အပ်သော တရားကို ကြားနာ၍၊ ကျင့်ဆောင်အပ်သော တရားကို လိုက်နာ ကျင့်ဆောင် အံ့သော ငါ့သာလျှင် ဖြစ်၏။ ဤအလို့ငှါ သာလျှင် နတ်တို့ ချစ်မြတ် နိုးသော ပိယဒသီ မင်းကြီး သည်၊ ဖုန်းတန်ခိုး အကျော်အစောကို အလိုရှိ၏။

၂၈၊ ၂၉။နတ်တို့ချစ်မြတ်နိုးသောပိယဒသီမင်းကြီး အားထုတ်တော်မူသ၍ သည်ကား၊ တမန္တန် လောက အ ဖို့ သာ လျှင် က တည်း။ အ ဘယ် အ လို့ ငှါ နည်း၊ ခပ်သိမ်းသောသူတို့အား၊ ဆုတ်ယုတ် ပျက်စီး ခြင်းမှ ကင်း လွတ် စေ ရန် ဖြစ် ၏။ အ ကု သိုလ် တို့ သည် ပင် ဆုတ်ယုတ် ပျက်စီးခြင်း တို့ပေတည်း။ ဤသို့ဆုတ်ယုတ်

## ၁၁။ ကောဒသမ ကျောက်ဆောင်စာ။
(မြာကြိုးရှ)

၂၉။ ။ဒေဝါနံပိယေ ပိယဒၐိ လာဇာ ဟေဝံ အာ-
ဟာ။ နထိ ဟေဒိၐေ ဒါနေ အာဒိၐံ ဓံမဒါနေ
ဓံမၐံဝိဘာဂေ ဓံမၐံဗဓေ။ တတ ဧၐေ
ဒါၐဘဋကၐိ ၐံယာပဋိပတိ မာတာ ပိတိၐု
ၐုၐုၐါ မိတၐံထုတ - နာတိကျာနံ သမန
ဗံဘနာနံ ဒါနေ။

၃၀။ ။ပါနာနံ အနာလံဘေ။ဧၐ ဝတဝိယေ ပိတိနာ
ပိ ပုတေန ပိ ဘာတိနာ ပိ ၐုဝါမိကျေန
ပိ မိတၐံထုဘာနာ တိကျေနာပိ အဝါ ပဋိ-
ဝေသိယေနာပိ။ ဣယံ သာဓု ဣယံကဋဝိယေ။
ၐေ တထာ ကလံတ ဟိဒလောကိကျေ စ
ကံ အာလဓေ ဟောတိ ပလတ စာ အနံတ
ပုံနာ ၐၐဝတိ တေနာ ဓံမဒါနေန။

ပျက်စီးခြင်းမှကင်းလွတ်ခြင်း၄ါ၊ ဆောင်ရွက်ရန်ကား၊ ငယ်သူတို့အဖို့သော်၎င်း၊မြင့်မြတ်သူတို့အဖို့သော်၎င်း၊ မလွယ်လှပေ။ အကြွင်းမဲ့ စွန့်လွှတ်၍၊ အစွမ်းကုန် အားထုတ်ခြင်းနှင့် ကင်း၍မဖြစ်။ မြင့်မြတ်သူတို့အဖို့ ပင် ခဲယဉ်းချေ၏တကား။



## ၁၁။ ကေဒသမကျောက်ဆောင်စာ။

(မြန်မာ)

၂၉၊ ၃၀။ နတ်တို့ ချစ်မြတ် နိုးသော ပိယဒသီ မင်းကြီး ဤသို့မိန့်တော်မူ၏။

ဓမ္မ ဒါန ဟူသော တရားကိုလှူခြင်း၊ တရားကို ဝေ၄ခြင်း၊ တရားနှင့်ဆက်သွယ်ပေးခြင်းတို့နှင့်တူသော အလှူသည်မရှိ။ ကျေးကျွန် အစေခံတို့အားကောင်းစွာ ပြုစု သိမ်းမြန်းခြင်း၊ အမိအဖတို့အား ရိုသေ ကျိုးနွံ ခြင်း၊ မိတ်ဆွေ အသိအကျွမ်း ဆွေမျိုးတို့နှင့် ရဟန်း ပုဏ္ဏားတို့အား ပေးကမ်း လှူဒါန်းခြင်း၊ သတ္တဝါတို့ အား မညှိပ်စက် မသတ်ဖြတ်ခြင်းတို့သည်လည်း၊ ဤသို့ သောတရားအလှူပင်ဖြစ်၏။

## ၁၂။ ဥပါဒသမကျောက်ဆောင်စာ။

(မြာကြိုင်)

၃၀။ ။ဒေဝါနံ ပိယေ ပိယဒသိ။

၃၁။ ။လာဇာ သဝပါသံဍာနိ ပဝဇိတာနိ ဂေဟဋ္ဌာနိ
ဝါ ပူဇေတိ ဒါနေန ဝိဝိဓေန စ ပူဇာယေ။ နော
စု တထာ ဒါနေ ဝါ ပူဇာ ဝါ ဒေဝါနံပိယေ
မန္နတိ အထာ ကိတိ။ ဆါလာဝဍိ ဇိယာတိ သဝ-
ပါသံဍာနံ။ ဆါလာဝဍိ နာ(မ) ဗဟုဝိဓါ။ တသ စု
ဣယံ မုလေ အ ဝစဂုတိ။ ကိတိ တထာ
အတပါသံဍေ ပူဇာ ဝါ ပလ ပါသံဍဂလဟာ ဝ
နော ဇိယာ။

၃၂။ ။အပကလနသိ လဟုကာ ဝါ ဇိယာ။ တသိ တသိ
ပကလနသိ ပူဇေတဝိယ စု ပလပါသံဍာ
တေန တေန အကာလေန။ ဟေဝံ ကလတ
အတပါသံဍာ ဗာဎံ ဝဎိယတိ ပလပါသံဍ ပိ
ဝါ ဥပကလေတိ။ တဒါ အနထ ကလတ အတ
ပါသံဍ စ ဆနတိ ပလပါသံဍ ပိ ဝါ အပက-
လေတိ။ ယေ ဟိ ကေဆ အတပါသံဍ ပုနတိ။

၃၀။ အဖသည့်ဂုဏ်း၊ သားသည့်ဂုဏ်း၊ ညီအစ်ကို သည့်ဂုဏ်း၊ အသျှင်သည့်ဂုဏ်း၊ မိတ်ဆွေ အသိအကျွမ်း သည့်ဂုဏ်း၊ အိမ်နီးချင်းသည့်ဂုဏ်း၊ ဤတရားအလှူသည့် ကောင်း၏။ ဤတရားအလှူကို ပြုအပ်၏ဟု၊ ပြောဟော ရာ၏။

ဤသို့ပြုသည့်ရှိသော် ဤလောက၌ချမ်းသာကိုရ၍၊ တမန္တန်၌လည်း၊ ထိုတရား အလှူဖြင့် အတိုင်း မသိ သော ကုသိုလ်ကိုဖြစ်စေသေး၏။



၁၂။ ဒွါဒသမ ကျောက်ဆောင်စာ။

(မြန်မာ)

၃၀၊၃၁။ နတ်တို့ချစ်မြတ်နိုးသော ပိယဒသီမင်းကြီး သည်၊ ခပ်သိမ်းသော အယူဝါဒကွဲဂိုဏ်းသား၊ ရသေ့၊ ရဟန်းတို့နှင့် အိမ်ရာထောင်သူတို့အား၊ လှူဖွယ်တို့ဖြင့် ဂုဏ်း၊ ပူဇော်ဖွယ် အမျိုးမျိုးတို့ဖြင့်ဂုဏ်း၊ ချီးမြှင့်ပူဇော် တော်မူ၏။ သို့ရာတွင်ဤသို့လှူဒါန်းပူဇော်ခြင်းတို့သည် တရား၏ အနှစ်သာရ တိုးပွါးခြင်းလောက်။ ခပ်သိမ်း သောဝါဒိဂိုဏ်းသားတို့အဖို့ အကျိုးမများဟု၊ နတ်တို့ ချစ်မြတ်နိုးသော မင်းကြီးယူဆတော်မူ၏။

၃၃။ ။ပလ ပါဓဍ ဝါ ဂလဟတိ ဧဝေ အတပါဧံဍ-
ဘတိယာ ဝါ။ ကိတိ။ အတပါဧံဍ ဒိပယေမ။
ဧေ စ ပုနာ တထာ ကလံတံ ဗါဃတလေ
ဥပဟံတိ အတပါဧံဍမိ။ ဧမဝါယေ ဝ
ဧါဍု။ ကိတိ။ အံနမနဧါ ဓံမံ ဧုံနေယု စာ
ဧုဧု ဧေယု စာ တိ။ ဟောဝံ ဟိ ဒေဝါနံပိယဧါ
ဣဆာ။ ကိတိ။

၃၄၊ ။သဝပါဧံဍ ဗဟုဧုတာ စာ ကယာနာဂမာ
စ ဟုဝေယု တိ။ ဧ စ တတ တတ ပဧံနာ
တေဟိ ဝတဝိယေ ဒေဝါနာပိယေ နော
တထာ ဒါနံ ဝါ ပုဇာ ဝါ မံနတိ။ အထာ
ကိတိ။ ဧါလာဝဃ° ဧိယာ ဧဝပါဧံဍာနံ တိ။
ဗဟုကာ စာ တောယာဍာယေ ဝိယာပဋာ
ဓံမမဟာမာတာ ဣထိဓိယခ--မဟာမာတာ
ဝဃ— ဘုမိကျာ အနေ ဝါ နိကာယာ။

၃၅။ ။ဤယံ စ ဧဋီဧါ ဖလေ ယံ အတပါဧံ -ဍ—
ဝဃ° စ ဟောတိ ဓံမဧ စ ဒိပနာ။

တရား၏ အနှစ်သာရ တိုးပွါးခြင်း ဆိုသည်မှာလည်း၊ အမျိုးမျိုးရှိ၏။ ထိုတွင် နှုတ်လျှာကို စောင့်ထိန်းခြင်းသည် အရင်းခံဖြစ်၏၊ အဘယ်သို့ နှုတ်လျှာကို စောင့်ထိန်းရမည်နည်းဆိုသော်၊ မိမိ၏ဂိုဏ်းကို ချီးကျူး၍၊ တပါးဂိုဏ်း တို့အား ကဲ့ရဲ့ခြင်း၊ ချုပ်ချယ်ခြင်း၊ ရှုတ်ချခြင်းတို့ကို မပြုရာ။

အခါအခါနှင့်လျော်စွာ၊ တပါးဂိုဏ်းသားတို့အားလည်း၊ လျောက်ပတ်စွာ ပူဇော်အပ်၏။ ဤသို့ပြုသည်ရှိသော် မိမိ၏ဂိုဏ်းကို အလွန်ချီးမြှင့်၍၊ တပါးဂိုဏ်းအားလည်း ကျေးဇူးပြုသည်မည်၏။ ဤသို့ မပြုသည်ရှိသော် မိမိ၏ ဂိုဏ်းကိုဖျက်ဆီး၍၊ တပါး ဂိုဏ်းအားလည်း အကျိုးမဲ့ပြုသည်မည်၏။

အကြင်သူသည် မိမိဂိုဏ်းကို ကြည်ညိုသောအားဖြင့်၊ မိမိဂိုဏ်းလျှင် ထင်ပေါ် စိမ့်သောငှာ၊ တပါးဂိုဏ်းအား ကဲ့ရဲ့ရှုတ်ချ၍၊ မိမိဂိုဏ်းအားချီးကျူး၏။ ထိုသူသည် ဤသို့ ချီးကျူးခြင်းဖြင့်၊ မိမိ ဂိုဏ်းကို လွန်ကဲစွာ ဖျက်ဆီးပြီ၏။

တဂိုဏ်းနှင့် တဂိုဏ်း အညီ အညွတ် ရှိခြင်းသည် ကောင်း၏။ သို့မှသာ တဂိုဏ်း၏တရားကို အခြားတဂိုဏ်းက ကြားနာရ၍၊ ရိုသေ လေးစား ပေအံ့။

၃၄။ ခပ်သိမ်းသောဂိုဏ်းသားတို့သည် အကြား အမြင်နှင့် ပြည့်စုံ၍၊ ကောင်းမြတ်သော ကိုးကွယ် ဆည်းကပ်ခြင်းသို့ ရောက်သည်ကို၊ နတ်တို့ချစ်မြတ် နိုးသော မင်းကြီး အလိုရှိတော်မူ၏။

မည်သည့် ဂိုဏ်း၌မဆို၊ ကြည်ညို ကိုးကွယ် သူတို့ သည်၊ ဤသို့ ဟောပြောရာ၏။

လှူဒါန်းပူဇော်ခြင်းတို့သည်၊ ခပ်သိမ်းသော ဂိုဏ်း တို့၌၊ တရား၏ အနှစ်သာရ တိုးပွါးခြင်း လောက်၊ အကျိုးမများဟု၊ နတ်တို့ ချစ်မြတ် နိုးသော မင်းကြီး ထင်မှတ်တော်မူ၏။

ဤအကျိုးငှါ များစွာသောတရား အမတ်ကြီးများ၊ မိန်းမများအား အထူးစောင့်ရှောက်သည့် အမတ်ကြီး များ၊ ကလေးများအား သွန်သင်သည့် အရာရှိများနှင့် အခြား အမှုထမ်း များသည် ဆောင်ရွက် လျက် ရှိကြ ကုန်၏။

၃၅။ ဤသို့ ဆောင်ရွက်ခြင်း၏ အကျိုးသည်ကား၊ မိမိ၏ဂိုဏ်းလျှင် တိုးတက်ကြီးပွါးခြင်းနှင့်တရားတော် ထွန်းလင်းတောက်ပခြင်းဖြစ်၏။

## ၁၃။ တေရသမ ကျောက်ဆောင်စာ

(ပြာကြိုဋ္ဌ)

၃၅။ ။အဋ္ဌဝၐါဘိသိတၐါ ဒေဝါနံပိယၐ ပိယဒၑိ-
နေ လာဇိနေ ကလိဂျာ ဝိဇိတာ။ ဒိယဎ-
မာတေ ပါနၐတၐဟၐေ ယေ တဖါ အပဝု-
ဎေ ၐတၐဟၐမာတေ တတ ဟတေ ဗဟု-
တာဝံတကေ ဝါ မဋေ။ တတာ ပဆာ
အဓုနာ လဓေၑု ကလိဂျေၑု တိဝေ ဓံမ-
ဝါယေ။

၃၆။ ။ဓံမကာမတာ ဓံမာနုၐထိ စာ ဒေဝါနံ-
ပိယၐါ။ ၑေ အထိ အနုၑယေ ဒေဝါနံပိယၐါ
ဝိဇိနိတု ကလိဂျာနိ။ အဝိဇိတံ ဟိ ဝိဇိနမ-
နေ ဧ တတာ ဝဓ ဝါ မလနေ ဝါ အပဝ
ဟေ ဝါ ဇနၐါ။ ၑေ ဗာဎ ဝေဒနိယမုတေ
ဂုလုမုဟေ စာ ဒေဝါနံပိယၐါ။ ဣယံ ပိ စု
တတော ဂလုမတတလေ ဒေဝါနံပိယၐါ။

၃၇။ ။ယေ တတာ ဝၐတိ ဗံဘနာ ဝ ၐမ(နာ)
ဝါ အနေ ဝါ ပါၐံဍ ဂိဟိထာ ဝါ ယေၑု

## ၁၃။ တေရသမ ကျောက်ဆောင်စာ၊

(မြန်မာ)

နတ်တို့ ချစ်မြတ်နိုးသော ပိယဒဿီ မင်းကြီးသည်၊ အဘိသိက်ခံပြီး ရှစ်နှစ် မြောက်၌၊ ကလိင်္ဂ တိုင်းကို အောင်မြင်တော် မူ၏။ ထိုသို့ အောင်မြင် ရာ၌၊ လူပေါင်း တသိန်းငါးသောင်းတို့ အကျဉ်း ဆောင်ယူ ခံရ၍၊ တသိန်း အသတ် ခံရ ပြီးလျှင်၊ ထို့ထက် အဆပေါင်း များစွာသော သူတို့ သေကြေ ပျက်စီးကြ ကုန်၏။

ကလိင်္ဂ တိုင်းကို သိမ်းယူပြီး သည် ၏ နောက်၌ နတ်တို့ ချစ်မြတ်နိုးသော မင်းကြီးသည်၊ တရားလမ်း ညွှန်ပြခြင်း၌၎င်း၊ တရားကို ခုံမင်နှစ်သက်ခြင်း၌၎င်း၊ တရား သွန်သင် ဆုန်းမခြင်း၌ ၎င်း၊ ထက်သန်လျက် ရှိချေပြီ။

ကလိင်္ဂတိုင်းကို အောင်တော် မူပြီးသော၊ နတ်တို့ ချစ်မြတ်နိုးသောမင်းကြီးသည်။ ယခု နောင်တရတော် မူလေပြီ၊ လူတို့အသတ်ခံရခြင်း၊ သေကြေပျက်စီးခြင်း၊ အကျဉ်း ဆောင်ယူ ခံရ ခြင်းဖြင့် ရအပ်သော အောင်ခြင်းသည် စင်စစ် အောင်ခြင်း မမည်။ ဤသို့ အောင်ရသည် အတွက် နတ်တို့ ချစ်မြတ် နိုးသော

ဝိဟိတာ ဓမ္မေ အဂဘုတ ဖုဖုဿါ မာတာပိတိ
ဖုဖုဿါ ဂလုဖုဖုဿါ မိတဿုတ ဗဟာဿ-
နာတိကေဖု ဒါဿဘတကမှိ ဿမျာပဋိပတိ
ဒိဝဘတိတာ ဘေ ဿ ဘတာ ဟောတိ ဥပဃာ-
တော ဝါ ဝဓေ ဝါ အဘိလတာနံ ဝါ ဝိနိခမ-
နေ။

၃၀။ ။ယေဿ ဝါ ဒိ ဿဝိဟိဘာနံ ဖိနေဟော အဝိပဟိ
နေ ဧတာနံ မိတဿုတဿဟာယနာတိကျာ
ဝိသဿနဲ ပါပုနာတိ။ တတဧပိ တာနမေဝ
ဥပဃာတော ဟောတိ။ ပဋိဘာဂေ စာ ဧဿ
ဿဝမနုဿါနံ ဂုလုမတော စာ ဒေဝါနံပိယဿါ။
နတိ စာ ဧ ဇနပဒေ ယတာ နတိ ဣမေ
နိကာယာ အာနံတာ ယောနေဖု။

၃၁။ ။ဗဟ္မနေ စာ ဿမနေ စာ နတိ စာ ကုဝါပိ
ဇနပဒဿိ ယတာ နတိ မနုဿါနံ ဧကတလဿိ
ပိ ပါဿဒိဿနော နာမ ပဿါဒေ။ ဧဿ အာဝတ-
ကေ ဇနေ တဒါ ကလိင်္ဂေဖု လဓေဖု ဟ-
တေ စာ မဋေ စာ အပဝုဎေ စာ တတာ
ဿတေ ဘာဂေ ဝါ ဿဟဿဘာဂေ ဝါ အဇ
ဂုလုမတေ ဝါ ဒေဝါနံပိယဿါ။

မင်းကြီး လွန်စွာ ဝမ်းနည်း ကြေကွဲ ဝန်လေး တော်မူသည်။

နတ်တို့ ချစ်မြတ်နိုးသော မင်းကြီးအဖို့၊ ထို့ထက် ဝန်လေးသော အချက်သည်ကား၊ ထို ကလိင်္ဂ တိုင်း၌ ပုဏ္ဏားတို့သည်၎င်း၊ ရဟန်းတို့သည်၎င်း၊ အခြားအယူဂိုဏ်းသား တို့သည်၎င်း၊ အိမ်ရာ ထောင်သူ တို့သည်၎င်း၊ နေကြကုန်၏။ ထိုသူတို့၌၊ သက်ကြီး၊ ဝါကြီး၊ အမိအဖ၊ ဆရာသခင်၊ မိတ်ဆွေ အပေါင်း အဖော် အသိအကျွမ်း ဆွေမျိုး၊ ကျေးကျွန် အစေခံ တို့အား၊ ကောင်းစွာ ပြုစု ထောက်ပံ့ ရမည့် ဝတ္တရားများ၊ တရားတော်၌ တည်မြဲစွာ ကြည်ညို ဆည်းကပ် ရမည့် ဝတ္တရားများ ရှိကြကုန်၏။ ထိုသူတို့သည်၊ ဒဏ်အနာတရ ပြုခြင်းကို၎င်း၊ သတ်ဖြတ် ခြင်းကို၎င်း၊ လွန်စွာ ချစ်ခင်သူတို့နှင့် ကွေကွင်း ရခြင်းကို၎င်း၊ ခံကြရ၏။ စစ်ဘေးစစ်ဒဏ်ကို ခံရသော၊ ၎င်းတို့၏ မိတ်ဆွေ၊ အပေါင်း အဖော် အသိအကျွမ်း၊ ဆွေမျိုး တို့သည်လည်း၊ ၎င်းတို့အပေါ်၌ မေတ္တာ မကင်းပြတ် သေးပဲ၊ သေကြေ ပျက်စီးခြင်းသို့ ရောက်ကြရ ကုန်၏။ တတိုင်းပြည်လုံး ဤသို့လျှင် ပျက်စီး ဆုံးရှုံး ကြကုန်၏။ ဤသို့ ခပ်သိမ်းသော သူတို့ ခံကြရသည်အတွက်၊ နတ်တို့ချစ်မြတ်နိုးသော မင်းကြီးဝန်လေးတော်မူ၏။

မရေတွက်နိုင်သော လူသျှင် ဂိုဏ်း အစည်းအရုံး

၁။ + + + +

၂။ + + + +

၃။ နေယု ဣဆ (တိ)

၄။ မ ဝဘု(တာနံ)--- မှယမ မ္ဗုမစလိယံ
မဒဝ တိ။ ဣယံ ဓုံ မု။

၅။ ဒေဝါနံပိယမ္ဂါယေ ဓံမဝိဇယေ။ မေ့
စ ပုနာ လဓေ ဒေဝါနံပိ (ယသာ
ဟိဒ) စ။

၆။ မှ္ဗဝေမု စ အတေမု အမုမု ပိ
ယောဇနမတေမု အတ အတိယော-
ဂေ နာမ. ယောနလာ (ဇာ) ---
ပလံ စာ တေနာ။

၇။ အံတိယောဂေနာ စတာလိ ၄ လ-
ဇာနေ တုလမယေ နာမ အံတေကိ-
နေ နာမ မကာ နာ-

